ပြည်ထောင်စု မြန်မာနိုင်ငံတော်
သာသနာရေးဝန်ကြီးဌာန
သာသနာရေးဦးစီးဌာန

# တိပိဋက

# ပါဠိ-မြန်မာအဘိဓာန်

## အတွဲ-၄ ၊ အပိုင်း-၁

(အာ-ဥတ္တာသေယျ)

(အဘိဓာန်ပုဒ်ပေါင်း ၇၃၈၇ ပါဝင်သည်)

ဆရာတော်ဦးပညိဿရာဘိဝံသ, ဆရာတော် ဦးမာဃိန္ဒာဘိဝံသတို့နှင့်
ဓမ္မဒူတကျောင်းဆောင် အဘိဓာန်အဖွဲ့က ရေးသားပြုစုသည်။



ပြည်ထောင်စု မြန်မာနိုင်ငံတော်
သာသနာရေးဝန်ကြီးဌာန
သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၌ ရိုက်နှိပ်သည်။

သာသနာ ၂၅၅၉ ကောဇာ ၁၃၆၇ ၂၀၀၅

ပြည်ထောင်စု မြန်မာနိုင်ငံတော်
သာသနာရေးဝန်ကြီးဌာန
သာသနာရေးဦးစီးဌာန

# တိပိဋက
# ပါဠိ-မြန်မာအဘိဓာန်

## အတွဲ-၄ ၊ အပိုင်း-၁

(အာ-ဥတ္တာသေယျ)

(အဘိဓာန်ပုဒ်ပေါင်း ၇၃၈၇ ပါဝင်သည်)

ဆရာတော်ဦးပညိဿရာဘိဝံသ, ဆရာတော် ဦးမာဃိန္ဒာဘိဝံသတို့နှင့်
ဓမ္မဒြီပကျောင်းဆောင် အဘိဓာန်အဖွဲ့က ရေးသားပြုစုသည်။



ပြည်ထောင်စု မြန်မာနိုင်ငံတော်
သာသနာရေးဝန်ကြီးဌာန
သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၌ ရိုက်နှိပ်သည်။

သာသနာ ၂၅၄၉ ကောဇာ ၁၃၆၇ ၂၀၀၅

# တိပိဋက ပါဠိ-မြန်မာအဘိဓာန်

## အတွဲ (၄) ၊ အပိုင်း (၁)


| ခုနှစ် | အကြိမ် | အုပ်ရေ |
| --- | --- | --- |
| ၁၉၈၀ | ပထမအကြိမ် | ၂၀၀၀ |
| ၂၀၀၅ | ဒုတိယအကြိမ် | ၁၀၀၀ |

၂၆၂၇၄

ရန်ကုန်မြို့၊ ကမ္ဘာအေး သာသနာရေးဝန်ကြီးဌာန
သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်တွင် ညွှန်ကြားရေးမှူး ဦးညွန့်မောင်
(မှတ်ပုံတင်အမှတ်-၀၃၈၄၃/၀၂၄၀၅)က ပုံနှိပ်ထုတ်ဝေသည်။

# တိပိဋက ပါဠိ-မြန်မာ အဘိဓာန်ကျမ်းကြီး

| စဉ် | အဘိဓာန်ကျမ်းစာအုပ်တွဲ | ပါဝင်သည့် အက္ခရာပုဒ် | ပြုစုသည့် အဖွဲ့ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အတွဲ (၁) | အ-မှ အနိဋ္ဌက ထိ | ဇမ္ဗူဒီပအဖွဲ့ | ပုံနှိပ်ပြီး |
| ၂။ | အတွဲ (၂) | အနု မှ အဇ္ဈောက္ကဏ-ထိ | ဇမ္ဗူဒီပအဖွဲ့ | ပုံနှိပ်ပြီး |
| ၃။ | အတွဲ (၃) | အဇ္ဈဂ္ဂ- မှ အဋ္ဌာရပ-ထိ | ဇမ္ဗူဒီပအဖွဲ့ | ပုံနှိပ်ပြီး |
| ၄။ | အတွဲ (၄) (၁) | အာ-မှ ဥတ္တရာသေဃျ-ထိ | ဇမ္ဗူဒီပအဖွဲ့ | ပုံနှိပ်ပြီး |
| ၅။ | အတွဲ (၄) (၂)(ပထမပိုင်း) | ဥဒ(၁) မှ ဥဠုရာသ-ထိ | မစိုးရိမ်အဖွဲ့ | ပုံနှိပ်ပြီး |
| ၆။ | အတွဲ (၄) (၂)(ဒုတိယပိုင်း) | | မစိုးရိမ်အဖွဲ့ | ပြုစုဆဲ |
| ၇။ | အတွဲ (၅) | က-မှ ကိလေဒေတွာ-ထိ | မစိုးရိမ်အဖွဲ့ | ပုံနှိပ်ပြီး |
| ၈။ | အတွဲ (၆) | ကိလေသ-မှ ဝကာရ-ထိ | မစိုးရိမ်အဖွဲ့ | ပုံနှိပ်ပြီး |
| ၉။ | အတွဲ (၇) | စ-မှ ဆိဋ္ဌေယျ-ထိ | ဝိသုဒ္ဓါရုံအဖွဲ့ | ပုံနှိပ်ပြီး |
| ၁၀။ | အတွဲ (၈) | ဆိန္န-မှ ဏျပစ္စယတ္တ-ထိ | ဝိသုဒ္ဓါရုံအဖွဲ့ | ပုံနှိပ်ပြီး |
| ၁၁။ | အတွဲ (၉) | တ-မှ ထောမေသာမိ-ထိ | ပခုက္ကူအဖွဲ့ | ပုံနှိပ်ပြီး |
| ၁၂။ | အတွဲ (၁၀) | ဒ-မှ ဒွေဠကပဉ္ဇာ-ထိ | ပခုက္ကူအဖွဲ့ | ပုံနှိပ်ပြီး |
| ၁၃။ | အတွဲ (၁၁) | ဓ-မှ နိက္ခာမေသုံ-ထိ | ပခုက္ကူအဖွဲ့ | ပုံနှိပ်ပြီး |
| ၁၄။ | အတွဲ (၁၂) | နိက္ခတ္တ-မှ နှာရုသုတ္တနိပန္နန-ထိ | ပခုက္ကူအဖွဲ့ | ပုံနှိပ်ပြီး |
| ၁၅။ | အတွဲ (၁၃) | ပ-မှ ပဋိပြုဟန-ထိ | ဝိသုဒ္ဓါရုံအဖွဲ့ | ပုံနှိပ်ပြီး |
| ၁၆။ | အတွဲ (၁၄) | ပဋိဘံသု မှ ထိ | ဝိသုဒ္ဓါရုံအဖွဲ့ | ပြုစုဆဲ |
| ၁၇။ | အတွဲ (၁၅) | ဖ-မှ ဘောဝါဒီ - ထိ | မစိုးရိမ်အဖွဲ့ | ပုံနှိပ်ပြီး |
| ၁၈။ | အတွဲ (၁၆) | မ-မှ မှိတပုဗ္ဗ-ထိ | မစိုးရိမ်အဖွဲ့ | ပုံနှိပ်ပြီး |
| ၁၉။ | အတွဲ (၁၇) | ယ-မှ ရောဟိသ-ထိ | ဘုရားကြီးအဖွဲ့ | ပုံနှိပ်ပြီး |
| ၂၀။ | အတွဲ (၁၈) | လ-မှ ဝဠဂါရထ-ထိ | ဘုရားကြီးအဖွဲ့ | ပုံနှိပ်ပြီး |
| ၂၁။ | အတွဲ (၁၉) | - | ဘုရားကြီးအဖွဲ့ | ပြုစုဆဲ |
| ၂၂။ | အတွဲ (၂၀) | - | ဘုရားကြီးအဖွဲ့ | ပြုစုဆဲ |



# ကျမ်းစာအုပ်ဓမ္မဒါနအလှူရှင်

တိပိဋကပါဠိမြန်မာအဘိဓာန်ကျမ်းကြီးများကို အဆက်မပြတ်
လည်ပတ်ပုံနှိပ် ထုတ်ဝေနိုင်ရန် ရည်မှန်း၍ ငွေပဒေသာပင်စိုက်ထူကာ
ပညာသံဝတ္တနိက ကုသိုလ်ပြုကြသော ဓမ္မဒါနဒါယကာများ

## ထူးထရိတ်ဒင်းကုမ္ပဏီ

## ဦးတေဇ မိသားစု
## ကောင်းမှု

**နတ်လူသာဓုခေါ်စေသောဝ။ ။**

### တိပိဋက ပါဠိ–မြန်မာ အဘိဓာန်

# သရအတွဲ ( ၄ ) နိဒါန်း၁

### နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

### အနန္တ ဉာဏ်တော်နှင့် အနန္တ ဒေသနာတော်

လူနတ်ပြဟ္မာ သတ္တဝါတို့၏ အားကိုးအားထားရာ မဟာကရုဏာတော်သခင် မြတ်စွာဘုရား ရှင်သည် အားလုံးစုံ အကုန်အစင် မှန်ကန်စွာ ကိုယ်တော်ဘိုင် ထိုးထွင်းသိမြင်နိုင်သည့် သဗ္ဗညုတာ မည်သော ဉာဏ်တော်မြတ်ကြီးဖြင့် ဝေနေယျသတ္တဝါတို့ ဒုက္ခခပ်သိမ်း ကင်းငြိမ်းခြင်းငှါ (၄၅) ဝါ ကာလပတ်လုံး ဟောကြားတော်မူအပ်သော (လောဘ ဒေါသစသည် ကင်းဝေးကြောင်း) ကောင်း မြတ် မှန်ကန်သော တရားဒေသနာတော်တို့သည် စာအုပ်စာတမ်းဖြင့် ရေးမှတ်၍ မကုန်နိုင်အောင် အလွန်အလွန် များပြားလှကုန်၏၊ ထို တရား ဒေသနာတော်တို့သည် သတိပဋ္ဌာန်, သမ္မပ္ပဓာန် အစ ရှိသော အနက်အဓိပ္ပါယ် အနှစ်သာရတို့နှင့် ပြည့်စုံလှသည်သာမက ကြားရသူတို့ နားလည်နိုင်လောက် အောင် စကားလုံးပရိယာယ် အမျိုးမျိုး လဲလှယ်ကာသုံး၍ ဟောထားခြင်းကြောင့် အဘိဓာန် ဝေါဟာရတို့နှင့်လည်း အလွန် အလွန် ကြွယ်ဝလှကုန်၏။

ထိုထို သတ္တဝါတို့၏ သန္တာန်၌ ဇောဝီထိတို့၏ အကြားအကြားတွင် ဘဝင်စိတ်ပေါင်း များစွာ ခြားလျက် ဆီးလျက် ဖြစ်နေသောကြောင့် မိမိတို့ ပြောလိုသော အကြောင်းအရာများနှင့်ဝေါဟာရ စကားလုံးများကို စဉ်းစားနေရသဖြင့် ကျင်း ချိုင့် ဆူး ငြောင့် ခလုတ် ပေါများသော လမ်း ပေါ်၌ ခြေကျင်ခရီး သွားရသကဲ့သို့ အချိန်ကုန်သလောက် ခရီးမတွင်ကျယ်, လုပ်ငန်းမတွင်ကျယ်ပဲ ရှိရ၏၊ မြတ်စွာဘုရား၌ကား ထိုကဲ့သို့ လုပ်ငန်းနှေးကွေးစေသော ဘဝင်စိတ်များအဖြစ် နည်းပါးလှ သည်သာမက လောဘ ဒေါသ စသော ကိလေသာ အညစ်အကြေးလည်း ကင်းဝေးစင်ကြယ်တော် မူပြီး ဖြစ်သောကြောင့် မြတ်စွာဘုရား၏ ဒေသနာဉာဏ်တော်သည် အလွန်လျင်မြန် သွက်လက်လှ၏၊

---

၁။ဤ၌ သရအဘိဓာန်အတွဲ(၄)ဖြစ်ပေါ်လာရခြင်း၏ အကြောင်းကို“နိဒါန်း”ဟု ခေါ်ဆိုခြင်းဖြစ်၏၊ ထိုနိဒါန်းသည်–

(၁) ဒူရေနိဒါန်း = အလွန်ဝေးဝေးက ဖြစ်ခဲ့သော အရေးကြီးဆုံး ပင်မအကြောင်း၊

(၂) အဝိဒူရေနိဒါန်း = မနီးမဝေး ခပ်လှမ်းလှမ်း ခပ်ကွာကွာက ဖြစ်ခဲ့သောအကြောင်း၊

(၃) သန္တိကေနိဒါန်း = နီးနီးကပ်ကပ် လောလောလတ်လတ် ဖြစ်လာသောအကြောင်း–

ဟူ၍ သုံးမျိုးရှိ၏၊ ထိုသုံးမျိုးတို့တွင် ဤအခါ၌ (၁)ဟောပြောရွတ်ဖတ်၍မကုန်, စာအုပ်စာတမ်း ရိုက်နှိပ်၍မကုန်နိုင် အောင် တရားဒေသနာတော်များကို မြတ်စွာဘုရား ဟောကြားတော်မူခဲ့ပုံကို ဒူရေနိဒါန်းအဖြစ်ဖြင့် ပြထား၍ (၂)ထို တရားဒေသနာတော်မြတ်များသည် သိမ်မွေ့နက်နဲ သေးနက်သော အဘိုးတန်ရတနာများ ဖြစ်၍ ဘုရားတပည့်သား ဆေရှင်မြတ်များ သင်္ဂါယနာတင်ခဲ့ခြင်း, နှုတ်ငုံဆောင်ခဲ့ခြင်း, ပေရွက်၌ ရေးသားခဲ့ခြင်းဖြင့် မပျောက်ပျက်အောင် စောင့်ရှောက်ခဲ့ပုံနှင့် အဋ္ဌကထာ, ဋီကာ စသော ကျမ်းပြုပုဂ္ဂိုလ်ဘို့ အနက် အဓိပ္ပါယ် ဖွင့်ဆိုဘော်မူခဲ့ကြပုံကို အဝိဒူရေ နိဒါန်းအဖြစ်ဖြင့်၎င်း (၃)ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်အစိုးရ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန သာသနာရေးဦးစီးဌာန၏ ဌာနဆိုင်ရာ လုပ်ငန်းကို စီမံကွပ်ကဲမှု, လှူဒါန်းထောက်ပံ့မှုကို အမှီတကဲပြု၍ အဘိဓာန်အဖွဲ့ ဆရာတော်တို့က ဤအဘိဓာန်ကျမ်းကို ကြိုးပမ်းအားထုတ် ရေးသားတော်မူကြပုံကို သန္တိကေနိဒါန်း အဖြစ်ဖြင့်၎င်း ပြသားကြောင်းတွေ့ရပါလိမ့်မည်။

ထိုကဲ့သို့ လျှင်မြန်သော ဒေသနာဉာဏ်တော်ကို ရှေ့သွားပြုကာ ကောင်းစွာ ထိမိသော နှုတ်ခမ်းတော် ရှင်းလင်းသော လည်ချောင်း ခံတွင်းတော်, ရှည်လျားကျယ်ပြန့်နူးညံ့သော လျှာတော်, ချိုသာသော အသံတော်, လျင်မြန်သွက်လက်သော စကားလုံးတော်တို့ဖြင့် ဟောကြားတော်မူခြင်းကြောင့် နံနက်ခင်း ဆွမ်းအနုမောဒနာ ဒေသနာသည်ပင် ဒီဃနိကာယ် မဇ္ဈိမနိကာယ် ပါဠိတော်တမျှ များပြားလေ၏၊ မွန်းလွဲပိုင်း၌ ရောက်လာသော ပရိသတ်တို့အား ဟောကြားအပ်သော တရားဒေသနာတော်တို့ကား သံယုတ်နှင့် အင်္ဂုတ္တိုရ်နိကာယ်ကြီး နှစ်ခုစာမျှ ရှည်လျားကုန်၏[၁]။ (အဘိ၊ဋ္ဌ၊၁။၁၆။ သံ၊ဋ္ဌ၊ ၂။၃၃၉။)

ထို့အပြင် တာဝတိံသာနတ်ပြည် ပင်လယ်ကသစ်ပင်ရင်း ပဏ္ဍုကမ္ဗလာ ကျောက်ဖျာအက်ဝယ် တသောင်းသော စကြဝဠာတိုက်မှ တရားနာရန် ရောက်လာကြသော နတ်ဗြဟ္မာတို့၏အလယ်၌ ထိုင်နေတော်မူလျက် "ကုသလာ ဓမ္မာ၊ အကုသလာ ဓမ္မာ၊ အဗျာကတာ ဓမ္မာ" စသည်ဖြင့် အကျဉ်းချုပ်ခေါင်းစဉ် မာတိကာကို ရှေးဦးစွာချပြပြီးလျှင် ကြေညက်စွာ နှုတ်တက်ရထားသော စာကို တောက်လျှောက်ရွတ်ပြသကဲ့သို့ရင်း၊ ကောင်းကင်ရေတံခွန်ကြီးသည် အဆက်မပြတ် တဝေါဝေါ စီးဆင်းနေသကဲ့သို့ရင်း ဝါတွင်း သုံးလပတ်လုံး မရပ်မနား တဆက်တည်း ဟောကြားအပ်သော အဘိဓမ္မာ တရားတော်တို့သည်ကား သတိ ဝီရိယဉာဏ်ပညာ ထက်မြက်လှ၍ အလွန်လည်း နှုတ်သွက်သော အရှင်အာနန္ဒာကဲ့သို့သော ထေရ်ရှင်မြတ်များပင် ရွတ်ဖို့မကုန် ဟော၍မကုန်အောင် အလွန့်အလွန် များပြားလှကုန်၏။

အရှင်အာနန္ဒာသည် ခြေဖဝါးချသည့်နေရာတနေရာဘည်း၌ (မရွှေမပြောင်းပဲ) ရပ်လျက်ပင် ဂါထာပါဒပေါင်း ခြောက်သောင်း (လေးပါဒရှိသော ဂါထာအရေအတွက်အားဖြင့် တသောင်းငါးထောင်)တိတိ သင်လည်း သင်ယူနိုင်, ပို့ချလည်း ပို့ချနိုင်, ဟောလည်း ဟောနိုင်၏။ မြတ်စွာဘုရား ဝါတွင်းသုံးလပတ်လုံး မရပ်မနား ဟောကြားထားအပ်သော အဘိဓမ္မာတရားတော်များမှာ ထိုအာနန္ဒာ ထေရ်ရှင်မြတ် အနှစ်ဘရာ, အနှစ်တထောင် သင်ယူလို့ပင် မကုန်ဆုံးနိုင်အောင် များလှကုန်၏။

ထိုမှကပါး ဘုရားဖြစ်တော်မူပြီးကာစ, ရတနဃရသတ္တာဟ၌ မြတ်စွာဘုရားကိုယ်တော်မြတ်သည် ဓမ္မသင်္ဂဏီ, ဝိဘင်း အစရှိသော အဘိဓမ္မာ တရားတော်တို့ကို ခုနစ်ရက်, ခုနစ်ညဉ့်ပတ်လုံး စိတ်တော်ဖြင့် ဆင်ခြင်သုံးသပ်တော်မူလေရာ ပဋ္ဌာန်းအဘိဓမ္မာတရားတော်ကြီးကို ဆင်ခြင်သုံးသပ်တော်မူသည့် အချိန်ကာလတွင် ထိုမြတ်စွာဘုရား၏ ကိုယ်တော်မှ အညိုရောင်, အဝါရောင်, အနီရောင် အစရှိသော ရောင်ခြည်တော်ခြောက်သွယ်တို့သည် ကြည်နူးဖွယ် အလွန်တင့်တယ်စွာ တဝင်းဝင်း တလက်လက် ပေါ်ထွက်လာကုန်၏။ ထိုခုနစ်ရက်, ခုနစ်ညဉ့်ပတ်လုံး စိတ်တော်ဖြင့် ဆင်ခြင်သုံးသပ်တော်မူအပ်

---

၁။ ပဋ္ဌမပါရာဇိကစသော သိက္ခာပုဒ်ကို ပညတ်စဉ်အခါက သိက္ခာပုဒ် မပညတ်မီ ရှေးဦးစွာ တရားဟောတော်မူရာ ထိုတရားဒေသနာတော်သည် ဒီဃနိကာယ်, မဇ္ဈိမနိကာယ် ပမာဏရှိကြောင်းကို ဝိ၊ဋ္ဌ၊၁။၁၈၇-၌ ပြဆိုသားသည်။ အချိန်အနည်းငယ်အတွင်း ထိုမျှများစွာ ဟောတော်မူနိုင်ခြင်းမှာ လျှာတော်၏ နူးညံ့ခြင်း, နှုတ်ခမ်းတော်၏ ကောင်းစွာထိခြင်း, ပြောလိုသော စကားတော်များ လျှောကျကြွင်းကျန်မနေရစ်ခြင်း, ဘဝင်စိတ်အယဉ်လျင်မြန်စွာ ရပ်တန့်ရှိ ဝီထိစိတ်အယဉ်သာ အဖြစ်များခြင်းတို့ကြောင့် ဖြစ်ကြောင်းနှင့် လူတို့ တခွန်းပြောလျှင် အရှင်အာနန္ဒာက ရှစ်ခွန်းပြောနိုင်၍ အရှင်အာနန္ဒာ တခွန်းပြောလျှင် မြတ်စွာဘုရားက (၁၆)ခွန်း ပြောဆိုနိုင်ကြောင်း(လူတို့ဘခွန်းလျှင် မြတ်စွာဘုရားသည် (၁၂၈)ခွန်း ပြောဆိုနိုင်ကြောင်း) တို့ကို မ၊ဋ္ဌ၊၁။၃၅၈။ သာရတ္ထ၊၂။၃၁-တို့၌ ပြဆိုထားသည်။

သော အဘိဓမ္မာ တရားတော်မြတ်ကြီးသည်ကား ထိုမြတ်စွာဘုရားကိုယ်တော်တိုင် နှုတ်တော်ဖြင့် ထုတ်ဖော်၍ ဟောကြားပါက နှစ်ပေါင်း ရာထောင်သောင်းသိန်းကာလမျှ ဟောကြားရလောက်အောင်ပင် များပြားလှကုန်၏။ အဘိ၊ဋ္ဌ၊၁။၁၅၊၁၆။

လောက၌ သိစရာ အကြောင်းအရာများကား မကုန်ခန်းနိုင်အောင် များပြားလှကုန်၏။ မြတ်စွာဘုရားသည် အဆုံးအဆားမရှိ သိမြင်နိုင်သော အနာဝရဏဉာဏ်တော်ပိုင်ရှင် ဖြစ်တော်မူသောကြောင့် ထိုသိစရာအကြောင်းအရာများစွာထဲမှ သိလိုရာ, သိလိုရာကို စဉ်းစားလိုက်သည်နှင့် တပြိုင်နက် အဆုံးအဆားမရှိ သိမြင်တော်မူ၏။ ယာဝတကံ ဉေယျံ၊ တာဝတကံ ဉာဏံ၊ ယာဝတကံ ဉာဏံ, တာဝတကံ ဉေယျံ (မဟာနိဒ္ဒေသ၊ ၁၃၉)နှင့် အညီ သိဖွယ်အကြောင်းအရာတို့သည် မကုန်နိုင် မခန်းနိုင်အောင် များလှ၍ အနန္တဉေယျ ဖြစ်ကုန်သကဲ့သို့ ထိုသိဖွယ်အကြောင်းအရာတို့ကို လိုက်၍လိုက်၍ သိသောဉာဏ်တော်တို့သည်လည်း မကုန်ခန်းနိုင်အောင် များလှသော အနန္တဉာဏ်တော်များပင် ဖြစ်ကုန်၏။ ထို့နောက်တဖန် ဉာဏ်တော်တို့သည် အနန္တဉာဏ်တော်များ ဖြစ်ကုန်သကဲ့သို့ ထိုအနန္တဉာဏ်တော်ကိုဖြင့် ဆင်ခြင်စဉ်းစားအပ်သော တရားဒေသနာတော်တို့နှင့် ဆင်ခြင်စဉ်းစား၍ (၄၅)ဝါကာလပတ်လုံး ဟောကြားထားအပ်သော တရားဒေသနာတော်တို့သည်လည်း မကုန်ခန်းနိုင်အောင် များလှသော အနန္တဒေသနာတော်များ ဖြစ်ကြကုန်၏။

ထိုအနန္တဉာဏ်တော်ဖြင့် ဆင်ခြင်စဉ်းစား သိမြင်ထားအပ်သော အနန္တဒေသနာတော်တို့တွင် အကြောင်းအတ္တုပ္ပတ္တိမပေါ် ပေါက်၍ နှုတ်တော်ဖြင့် ထုတ်ဖော်မဟောရသော ဒေသနာတော်တို့သည် အလွန်အလွန်များပြားစွာ ကျန်ရှိနေပြီးလျှင် အကြောင်းအဋ္ဌုပ္ပတ္တိပေါ် ပေါက်လာသဖြင့် ထုတ်ဖော်၍ ဟောကြားရသော ဒေသနာတော်တို့သည်ကား အလွန် အလွန်နည်းပါးလှကုန်၏။ (သံ၊၃။၃၇၃။သီသပါဝနသုတ်-ကြည့်) နှုတ်တော်ဖြင့် ထုတ်ဖော်ဟောကြားထားအပ်ပြီးသော ထိုဒေသနာတော်တို့တွင်လည်း အရှင်အာနန္ဒာထေရ်မြတ် ကြားနာမှတ်သားဆောင်ထားခဲ့သော ဓမ္မက္ခန္ဓာပေါင်း ရှစ်သောင်းလေးထောင် ပါဝင်သည့် ဝိနည်း, သုတ္တန်, အဘိဓမ္မာ ဟု သုံးစုခွဲထားသော ပိဋကကျမ်းစာအုပ်အဖြစ်ဖြင့် ယခုတွေ့ရှိရသော ပါဠိတော်အုပ်ရေ (၄၀)သည် အနန္တဒေသနာတော်ကို ထောက်ဆပါက အလွန်ကျယ်ပြန့်နက်ရှိုင်းသော သမုဒ္ဒရာရေထုကြီးထဲမှ ရေတပေါက်စာကလေးမျှ အလွန်အလွန် နည်းပါးလှပေ၏၊ သို့သော် ဝိနည်းနှင့် အဘိဓမ္မာကျမ်းစာအုပ်များ၌ အကျဉ်းချုပ်မျှ ပြထားသောနေရာနှင့် ချဲ့ထွင်ရှုတ်ဆိုရန် ညွှန်ပြထားသော နေရာတို့ကို ဖော်ထုတ်လျက်ငင်း, ပေယျာလမြှုပ်ထားသောနေရာတို့ကို ဖော်ထုတ်လျက်ငင်း ရွတ်ဖတ်သရဇ္ဈာယ်လျှင်ကား မည်မျှလောက်ကြာမှ ပြီးဆုံးမည်ဟု မခန့်မှန်းနိုင်သည်သာမက စာအုပ်စာတမ်း ရိုက်နှိပ်လျှင်လည်း ပါဠိတော်ကျမ်းစာအုပ်ရေ(၄၀)မက အလွန်အလွန် များပြားလှမည်ဖြစ်၏။

## သိမ်မွေ့နက်နဲ ခက်ခဲသော တရားဒေသနာတော်

ဗုဒ္ဓမြတ်စွာ၏ဒေသနာတော်များသည် အလွန်သိမ်မွေ့နက်နဲခက်ခဲသော ပါဠိတော် (ပါဠိစာပေ) ကျမ်းဝင်ကြီးများ ဖြစ်၏၊ ထို ကျမ်းဂန်များ၌ ခေတ်အဆက်ဆက် လူသားတို့ ရှာဖွေနေကြသည့်

လောကီ,လောကုတ္တရာ ငြိမ်းချမ်းမှုနှင့် ယင်းငြိမ်းချမ်းမှုကို ရရာ ရကြောင်း နည်းလမ်းကောင်းများ ဖြစ်သည့် မဇ္ဈိမပဋိပဒါကျင့်စဉ်များကို တမူထူးခြားစွာ ဖော်ပြထားရာ ယင်းတို့ကို သိရှိနိုင်ရန် ပါဠိ-စာပေ ကျမ်းဂန်များကို နားလည်ဖို့ လိုအပ်ပေသည်။

ထို့ကြောင့် ပါဠိစာပေကျမ်းဂန်များကို နားလည်နိုင်ရန် ပါဠိစာပေ၏အခင်တံခါး (=ပဝေသနဒွါရ) သဖွယ်ဖြစ်သော သဒ္ဒါဆိုင်ရာကျမ်းစာများကို အခြေခံအဖြစ်ဖြင့် ရှေးဦးစွာ သင်ယူလေ့ကျက်ကြရ၏၊ ထိုသို့ သင်ယူလေ့ကျက်မှသာ ထိုထို ပိဋကစာပေကြီးများကိုသင်ယူရာ၌ လွယ်ကူ၍ ပုဒ်တိုင်း ပုဒ်တိုင်း၌ ယုံမှားသံသယဖြစ်ရမှု ဟူသော အပြစ်ဒေါသမှ ကင်းလွတ်နိုင်လေသည်၊ ထိုသို့ သဒ္ဒါကျမ်းများကို သင်ယူပြီးနောက် ထိုထို ပါဠိတော်များကို နှစ်ပေါင်းများစွာ သင်ရ၏။ တကြိမ်မက အကြိမ်ပေါင်းများစွာ ဆရာသခင် ထေရ်အရှင်ကြီးတို့ထံ၌ သင်ယူကြရ၏။

ရှေးအခါက သီဟိုဠ်ကျွန်း (သီရိလင်္ကာနိုင်ငံ) ၌ ဗြာဟ္မဏတိဿသူပုန် ထကြွ သောင်းကျန်းနေစဉ်အချိန်တွင် ဝိနည်းပိဋကမကွယ်ပအောင် ထိန်းသိမ်းစောင့်ရှောက်၍ ဝိနည်းကျမ်းကျင်သူအဖြစ်ဖြင့် ထင်ရှားသော ဥပတိဿမည်သော ထေရ်ရှင်မြတ်၌ မဟာပဒုမထေရ်, မဟာသုမထေရ်ဟူ၍ အလွန်ဉာဏ်ထက်မြက်သော တပည့်နှစ်ပါး ရှိခဲ့ဘူး၏၊ ထို နှစ်ပါးတွင် မဟာသုမထေရ်သည် ဝိနည်းပိဋကကို (၉) ခေါက်တိတိ ဆရာထံ၌ သင်ယူ၏၊ မဟာပဒုမထေရ်ကား မဟာသုမထေရ်နှင့် တွဲဖက်၍ (၉) ခေါက် တိတိ သင်ယူအားပြီး ဖြစ်သည့်အပြင် မိမိဘဦးတည်း သီးသန့် နောက်ထပ် (၉) ခေါက်တိတိ သင်ယူပြန်၏၊ထို့ကြောင့် ဆရာထံ၌ ဝိနည်း (၁၈) ခေါက်သင်ယူထားသော မဟာပဒုမထေရ်သည် မဟာသုမထေရ်ထက်ပို၍ ဝိနည်းကျမ်းကျွ်၏၊ မဟာသုမထေရ်သည်ကား ဆရာထံ၌ ဝိနည်း( ၉ ) ခေါက် သင်ယူပြီးနောက် ဆရာနှင့်ခွဲခွါ၍ ဂင်္ဂါမြစ်၏တဘက်ကမ်းသို့ ကြွသွားလေ၏၊ ထိုအခါ မဟာပဒုမထေရ်က "ဒီဝိနည်းဓိုရ်မဟာသုမက တယ်ရဲဝံ့လှချည့်လား၊ ဆရာအသက်ထင်ရှား ရှိနေတုန်းမှာ ဆရာကို လက်လွှတ်ပြီး တခြားအရပ်မှာ နေဖို့ စိတ်ကူးမှ ကူးရက်ပလေတယ်၊ ဆရာရှိတုန်း ဆရာထံမှာ ဝိနည်းပိဋကကိုရော,အဋ္ဌကထာကိုပါ အကြိမ်ပေါင်းများစွာ သင်ယူပြီးတောင်မှပင် ဆရာကိုလက်မလွှတ်သင့်သေးဘူး မဟုတ်ပါလား။ အမြဲမပြတ်ကြားနာသင့်တယ်၊ နှစ်စဉ်မပြတ် ရွတ်အံသင့်တယ်မဟုတ်ပါလား" ဟု မဟာသုမထေရ်ကို အပြစ်တင်တော်မူခဲ့ဘူးလေသည်။ (ဝိ၊ဋ္ဌ၊၁။၂၂၈)

ဤသို့အားဖြင့် ရှေးအခါကရဟန်းတော်များသည် မိမိတို့ဘာဝန်ကျသော ပိဋကကို ဆရာ့အထံ၌ အခေါက်ပေါင်းများစွာ သင်ယူကြ၏၊ သို့သော် မည်မျှပင် သင်ယူသော်လည်း အကုန်အစင် ပိုင်နိုင်စွာ သိတို့အဘွက် အလွန်ခက်ခဲလှသောကြောင့် မိမိတို့ ပင်ကိုယ်ဉာဏ် ရှိသလောက်သာ သိနိုင်ကြ၏၊ ထို့ကြောင့် ရှေးက ပိဋကကျမ်းတတ်ဟု ကျော်ကြား ထင်ရှား၍ တပည့်ပရိသတ် မြောက်မြားစွာ ရှိသော တိုက်တာဦးစီး မြန်မာဆရာတော်ကြီးများသည်ပင် "ငါဘို့စာမတတ်သေးပါဘူး၊ ကြည့်တတ်ရှုတတ်ရုံ အဆင့်သာ ရှိပါသေးတယ်၊ ဓိနေရာမှာ ငါ အခေါက်ပေါင်းများစွာ ပို့ချခဲ့တယ်၊ ဒါပေမဲ့

အခိပ္ပါယ် သဘောမပေါက်ဘူး၊ ဟိုတနေ့က ဉာဏ်ထက်တဲ့စာဆိုတပည့်က စာဆိုသွားမှ အခိပ္ပါယ်သဘော ပေါက်တော့ဘယ်" ဟု ရိုးသားဖြောင့်မတ်စွာ ဖွင့်ဟ မိန့်ကြားတော်မူကြလေသည်[၁]။

ထို့အပြင် ပဋ္ဌိစ္စသမုပ္ပါဒ်ဝိဘင်း ပါဠိတော်ဖွင့်ကာနီး၌ အဋ္ဌကထာဆရာကိုယ်တိုင်ပင် ခက်ခဲသည်ဟု ညည်းညူရသော တရားလေးမျိုးရှိ၏၊ ထိုတရားလေးမျိုးမှာ—

(၁) သစ္စာလေးပါး၊

(၂) ရုပ်နာမ်သခါရမျှသာရှိ၍ သတ္တဝါကောင်, အတ္တကောင်မှ ဆိတ်သုဉ်းခြင်းသဘော၊

(၃) ပဋိသန္ဓေအကြောင်းအရာ၊

(၄) ပဋိစ္စသမုပ္ပါဒ်တရား၊

ဤလေးမျိုးကား သိမြင်ရန်ပင်ခက်ခဲလှ၍ ဖွင့်ဆိုရေးသားဟောကြားတို့ကား ပို၍ပင်ခက်ခဲ၏ဟု ညည်းညူတော်မူ၏။ (အဘိ၊ဋ္ဌ၊၂။၁၂၃။)

ဘာဝနာမယဉာဏ်ဖြင့် သိရန်ပို၍ခက်ခဲသောတရားတော်

ထိုတရား ဒေသနာတော်များကို ဆရာသွားများထံ၌ သင်ယူ၍သိရသော သုတမယဉာဏ်အသိ ဖြင့်၎င်း, ထိုသုတမယဉာဏ်ကိုအမှီပြု၍ စဉ်းစားသိရသော စိန္တာမယဉာဏ်အသ်ဖြင့်၎င်း သဘောပေါက် သိမြင်ရန် ခက်ခဲသည်ထက် ဝိပဿနာဉာဏ်, မဂ်ဉာဏ်ဟူသော ဘာဝနာမယဉာဏ်ဖြင့် သစ္စာလေးပါးကို ကိုယ်တိုင်ဒိဋ္ဌသိမြင်တို့က ပို၍ ခက်ခဲ၏၊ ထိုဘာဝနာမယဉာဏ်ဖြင့် ကိုယ်တွေ့မျက်မြင်သိမှုလည်း တရား တော် အပေါ်၌ ပို၍ ယုံကြည်အားကိုးလာ၏။ မြတ်စွာဘုရား ဟောကြားတော်မူသည့်အတိုင်း ငါတို့ ကိုယ်တိုင် လက်တွေ့ကျင့်သုံး၍သိရသော တရားတော်များသည် စာတွေ့နှင့် တထပ်တည်း ကျနေပါက လား၊ ထကယ်မှန်ကန်သော တရားတော်များ ပါဘကားဟု ကိုယ်တိုင်ဆုံးဖြတ်နိုင်သောအဆင့်သို့ ရောက်၏။

---

၁။ ဤနေရာ၌ "တိုက်တာဦးစီး ဆရာတော်ကြီးဖြစ်ပါလျက် သူ၏ တပည့်လောက်မျှ စာမတတ်ဘူး"ဟု အထင်မသေး ထိုက်၊နှစ်ရှည်လမျှား စာချလာခဲ့ကြသော စာချဘုန်းကြီးများ၌ ထိုအဖြစ်မျိုးနှင့် တခါတရံ ကြုံတွေ့ရတတ်သောကြောင့် သူတို့အတွက် အထူးအဆန်းမဟုတ်၊ ကျမ်းဂန်ပိဋကတ် အရပ်ရပ်၌ နှံ့စပ်အောင် သင်ယူပို့ချခဲ့ပြီးသော စာချပုဂ္ဂိုလ်ပင် ဖြစ်စေကာမူ သင်ယူပို့ချခဲ့သမျှ အားလုံးစုံ အကုန်အစင် ဉာဏ်ရှူးစိုက်နိုင်သည်မဟုတ်၊ တချို့နေရာ၌ လွယ်ကူသောအနက် အဓိပ္ပါယ်ပင် ဖြစ်စေကာမူ အကြံလွန် အတွေးချော်သွားတတ်၏၊ ဉာဏ်ဟုန်နေတတ်၏၊ အကြံမလွန် အတွေးမချော်သော ပုဂ္ဂိုလ်ကမူ လွယ်လွယ်ကလေးဖြင့် သိသွား၏၊ ထိုနေရာကို လွယ်လွယ်ကလေး သိသွားရုံမျှဖြင့် သူကပို၍ဗဟုတတ်သည်ဟု မယူဆထိုက်၊ ရှေးအခါက သတိပဋ္ဌာန်ပါဠိတော် "ကောယေနော အယံ ဘိက္ခဝေ မဂ္ဂေါ" ၌ တရားဆွေးနွေးကြရာတွင် တပည့်ဖြစ်သော တိပိဋကစူဠနာဂထေရ်သည် မဂ္ဂေါပုဒ်အရ ပုဗ္ဗဘာဂမဂ် (လောကုတ္တရာမဂ်၏ ရှေ့ပိုင်း လောကီမဂ်) ကို ယူရမည်ဟုဆို၏၊ သူ၏ဆရာ တိပိဋကစူဠသုမနထေရ်ကမူ မိဿကမဂ် (လောကီမဂ်နှင့် ရောနှောသော လောကုတ္တရာ မဂ်)ကို ယူရမည်ဟုဆို၏၊ ဆရာ တပည့်နှစ်ဦး အယူအဆကွဲလွဲနေကြရာ တပည့်က ဆရာကို တရားကပ်ပြိုင်ဆိုင်၍ မငြင်းလိုသော ကြောင့် စကားပြောရပ်လိုက်၏၊ ထို့နောက် ဆရာသည် သတိပဋ္ဌာန်ပါဠိတော်ကို အစမှ စပြီး ရွတ်အံကြည့်၍ "ယော ဟိ ကောစိ ဘိက္ခဝေ ဣမေ စတ္တာရော သတိပဋ္ဌာနေ ဧဝံ ဘာဝေယျ သတ္တဝဿာနိ" ဟူသော ဝါကျကို ရွတ်မိသောအခါ၊ "လောကုတ္တရာ မဂ်ဆိုလျှင် တကြိမ်ဖြစ်ပြီးနောက်(၇) နှစ်တိတိ ဆက်ဖြစ်နေမည်မဟုတ်၊ ထို့ကြောင့် မိဿကမဂ်ကို ယူရမည်ဟု ငါပြောလိုက်တဲ့စကား မှားသွားပြီ" ဟု သူ၏အမှားကို ဝန်ခံတော်မူ၏။ (ဒီဋ္ဌ၊၂။၃၃၇)

ရှေးရှေးက ဖြည့်ကျင့်ဆည်းပူးခဲ့သော ပါရမီကုသိုလ်အထူးရှိသော ပုဂ္ဂိုလ်များမှာ မြတ်စွာဘုရားထံတော်မှ ဂါထာတပုဒ်ကြားနာ ရရုံမျှဖြင့် ထိုကဲ့သို့ကိုယ်တိုင်ဆုံးဖြတ်နိုင်သော အဆင့်သို့ရောက်ရန်လွယ်ကူသည်ဟုဆိုစရာရှိသော်လည်း များသောအားဖြင့်ကား ထိုအဆင့်သို့ ရောက်ရန်အလွန်ခက်ခဲ၏။ စာပေပရိယတ် တဖက်ကမ်းခတ် တတ်မြောက်ကာ များစွာသော စာသင်သား ရဟန်းတော်တို့၏ အားကိုးအားထားရာဖြစ်ခဲ့သော မဟာသီဝထေရ်ကြီးသည်ပင် နှစ်ရက် သုံးရက် ကမ္မဋ္ဌာန်းအားထုတ်လိုက်ရုံမျှဖြင့် အရဟတ္တဖိုလ်တရားထူးကို ရလိမ့်မည်ဟု မိမိကိုယ်ကိုအထင်ကြီးခဲ့စေကာမူ တကယ်လက်တွေ့အားထုတ်သောအခါ သူထင်သလောက်မလွယ်ကူပဲ လပေါင်းနှစ်ပေါင်းများစွာ ကြာလာ၍ မျက်ရည်ပေါက်ပေါက်ကျ ငိုရသည်အထိ ခက်ခက်ခဲခဲအားထုတ်လာခဲ့ရာ အနှစ်သုံးဆယ်ပြည့်မှ အရဟတ္တဖိုလ်တရားထူးကို ရလေတော့သည်။ (ဒီ၊ဋ္ဌ၊၂။၃၁၉) ထို့ကြောင့် သစ္စာလေးပါးတရားကို စာတွေ့ အသိမဟုတ်ပဲ ဝိပဿနာဉာဏ်, မဂ်ဉာဏ်အသိဖြင့် ကိုယ်တွေ့သိရန်မှာ အလွန်တရာ ခက်ခဲလှပေသည်။

များစွာသောသတ္တဝါတို့သည် မိမိတို့ခန္ဓာကိုယ်ကို ရုပ်တရား, နာမ်တရားဟု အမှန်အတိုင်းမသိပဲ ငါ, သူတပါး, ဘယ်သူ, ဘယ်ဝါ စသည်ဖြင့် ပုဂ္ဂိုလ် သတ္တဝါအကောင်အထည်အနေအားဖြင့် အသိမှားနေကြ၏၊ မိမိတို့ခန္ဓာကိုယ် (ရုပ်နာမ်အစုအဝေး)တည်းဟူသော ဒုက္ခသစ္စာကို ဒုက္ခဟုမမြင်ပဲ သုခဟုသာ အမြင်မှားနေကြ၏၊ ထိုကဲ့သို့ ဒုက္ခဟု အမှန်အတိုင်း မမြင်နိုင်အောင်လည်း အဝိဇ္ဇာအမှောင်ထုက ဖုံးအုပ်ထား၏၊ ထို့ကြောင့် တဏှာလောဘဖြင့် မိမိတို့ဘဝ (မိမိတို့ခန္ဓာ)ကို တပ်မက်ခင်တွယ်နေကြ၏၊ ထိုတဏှာလောဘကိုလည်း ဒုက္ခဖြစ်ကြောင်း, ဆင်းရဲကြောင်းတရားဟု အမှန်အတိုင်းမမြင်ပဲ ချမ်းသာကြောင်းတရားဟု အမြင်မှားကာ တဏှာ လောဘကိုအဖော်လုပ်လျက် ဖြစ်ရာဘဝမှာ တဏှာလောဘဖြင့်သာ ပျော်မွေ့နေကြ၏၊ အသစ်အသစ် ဘဝခန္ဓာစည်းစိမ်ချမ်းသာကိုသာ တဏှာလောဘဖြင့် မျှော်မှန်းနေကြ၏၊ ထို့ကြောင့် မိမိတို့ဘဝခန္ဓာကိုယ်၏ အပြီးသတ်ချုပ်ငြိမ်းကြောင်း မဂ္ဂသစ္စာကိုရင်း, ထိုမဂ္ဂသစ္စာဖြင့် သိမြင်ရမည့် ခန္ဓာဓာတ်သိမ်း အငြိမ်းဓာတ်သဘောဘည်းဟူသော နိရောဓသစ္စာ (နိဗ္ဗာန်)ကိုရင်း သိမြင်ရန်ခက်ခဲလှသည်သာမက သိမြင်ခြင်းငှါပင် အလိုမရှိကြကုန်။

ဤသို့ဖြင့် ဒုက္ခသစ္စာကို အကောင်းထင်၍ သမုဒယသစ္စာဖြင့် အပျော်ကြီးပျော်မွေ့နေကြသော သတ္တဝါတို့မှာ ပဋိစ္စသမုပ္ပါဒ်တရားတော်ကို သဘောပေါက်ရန်လည်း မလွယ်ကူတော့ပေ၊ အဝိဇ္ဇာကြောင့် သင်္ခါရဖြစ်ပုံ, သင်္ခါရကြောင့် ဝိညာဏ်ဖြစ်ပုံ, ဝိညာဏ်ကြောင့်နာမ်ရုပ်ဖြစ်ပုံ ဤသို့ စသည်ဖြင့် အကြောင်းတရား ကြောင့် အကျိုးတရားဖြစ်ပုံကိုရင်း, အကြောင်းတရားက အကျိုးတရားဖြစ်ပေါ်လာအောင် ဟေတု, အာရမ္မဏ, အဓိပတိ စသော ပစ္စယသတ္တိတို့တွင် မည်သည့်ပစ္စယသတ္တိဖြင့် ကျေးဇူးပြုသည်ကိုရင်း သဘောပေါက်သိမြင်ရန် မလွယ်ကူတော့ပေ၊ ဤအကြောင်းအရာကို ဆင်ခြင်တော်မူသော မြတ်စွာဘုရားသည် ဘုရားဖြစ်တော်မူစအချိန်က သတ္တဝါတို့အား တရားမဟောလိုတော့ပဲ အေးအေးသက်သာနေတော်မူရန် အကြံဖြစ်တော်မူလာခဲ့ပေသည်။

## သာသနာ့ဝန်ဆောင် ထေရ်ရှင်တို့၏ အံ့မခန်းကြိုးပမ်းချက်များ

မြတ်စွာဘုရားလက်ထက်တော်အခါက ရဟန်းတော် ထေရ်ရှင်မြတ်တို့သည် ယင်းသို့ သိမ်မွေ့နက်နဲသော ထိုဘုရားဟော တရားတော်တို့ကို ပေရွက် စာရွက်တို့ဖြင့် ရေးမှတ်မထားပဲ နှုတ်တက်အရဆောင်ကာ တဆင့်သင်ပြ ပို့ချဟောပြောတော်မူကြ၏။ ပေရွက် စာရွက်တို့ဖြင့် ရေးမှတ်ထားဖို့ မလိုလောက်အောင်လည်း သတိ ဉာဏ် ဝီရိယ ကြီးမားထက်သန်တော်မူလှသော ထေရ်ရှင်မြတ်များ ဖြစ်တော်မူကြ၏၊

ထို့အပြင် မြတ်စွာဘုရား သက်တော်ထင်ရှားရှိတော်မူစဉ်က မည်သည့်ပိဋကကျမ်းစာကို မည်သည့်ပုဂ္ဂိုလ်က ပို့ချရမည်ဟု တာဝန်ခွဲဝေ သတ်မှတ်ထားခြင်းလည်း မရှိသေး၊ အရှင်ဥပါလိထေရ်သည် ဝိနယဓရဧတဒဂ်ရ ပုဂ္ဂိုလ်ဖြစ်သည်အားလျော်စွာ ဝိနည်းပိဋကကို အများဆုံး ပို့ချလေ့ရှိသဖြင့် သူ၏အထံတွင် ရဟန်းတော် အများပင် ဝိနည်းပိဋကကို သင်ယူတော်မူကြ၏၊ အရှင်အာနန္ဒာထေရ်သည် ဓမ္မဘဏ္ဍာဂါရိက ပုဂ္ဂိုလ်ဖြစ် သည်နှင့်အညီ မြတ်စွာဘုရားဟောကြားထားသော ပါဠိတော်များနှင့် အရှင်သာရိပုတြာ စသော ရဟန္တာအရှင်မြတ်များ ဟောကြားထားသော ပါဠိတော်များ (ပါဠိဓမ္မက္ခန္ဓာပေါင်း ရှစ်သောင်းလေး ထောင်) ကို နှုတ်တက်ဆောင်ကာ ဟောပြောပို့ချတော်မူ၏၊ အခြားအခြားသော ထေရ်ရှင်မြတ်တို့ သည်လည်း မိမိဘို့စွမ်းနိုင်သမျှ သင်ယူပို့ချနှုတ်တက်ဆောင်ထားကြကုန်၏။

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူပြီး၍ (၃) လခန့် အကြာတွင် အရှင်မဟာကဿပထေရ်အမှူး ရှိသော ရဟန္တာအရှင်မြတ် (၅၀၀) တို့ ပဌမသင်္ဂါယနာတင်တော်မူကြ၏၊ ထိုပဌမသင်္ဂါယနာတင်အပြီး မှာပင် ဝိနည်းပိဋကကို ပို့ချရန် အရှင်ဥပါလိထေရ်က တာဝန်ယူရ၏၊ ဒီဃနိကာယ်ကို အရှင်အာနန္ဒာ ထေရ်ကရင်း, မဇ္ဈိမနိကာယ်ကို အရှင်သာရိပုတြာ၏ တပည့်များကရင်း, သံယုတ္တနိကာယ်ကို အရှင် မဟာကဿပထေရ်ကရင်း, အင်္ဂုတ္တရနိကာယ်ကို အရှင်အနုရုဒ္ဓါထေရ်ကရင်း တာဝန်ယူရ၏။

ထိုသင်္ဂါယနာတင် ထေရ်အရှင်မြတ်များနှင့် တပည့်အဆက်ဆက်တို့သည် ဤကဲ့သို့တာဝန်အသီး အသီး ခွဲယူခြင်းဖြင့် ပိဋကတော်များကို မမေ့မပျောက်အောင် ပေရွက် စာရွက်၌ ရေးမှတ်ထားသကဲ့သို့ စိတ်နှလုံး၌ စွဲမြဲစွာ မှတ်သားထားကာ အဆင့်ဆင့် သင်ကြား ပို့ချလာခဲ့ကြသော သက်တမ်းသည် မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူပြီးသည့် အချိန်မှစ၍ ရေတွက်လျှင် နှစ်ပေါင်း (၄၅၅) နှစ် ပြည့်၍ သီဟိုဠ်ကျွန်း ဝဋ္ဋဂါမဏိမင်း လက်ထက် ပေထက်အက္ခရာတင်သည့်အချိန်အထိ ကြာမြင့်လာခဲ့၏။

ထိုမျှလောက် ကြာမြင့်သောနှစ်ကာလအတောအတွင်း၌ ခိုးသားဒမြ သောင်းကျန်းသူ ထူထပ် ပေါများလှသော စောရကန္တာရအတွင်းဝယ် အဖိုးတန်ပတ္တမြားရတနာကို ခက်ခဲစွာသယ်ယူလာရသကဲ့သို့ ဖော်ပြလတ္တံ့သော ဘေးအန္တရာယ် အနှောင့်အယှက် အခက်အခဲအမျိုးမျိုးကြားထဲကပင် ပိဋကသုံးဖြာ အဖိုးတန်ရတနာကို ဆရာမှတပည့်သို့ နှုတ်ဆင့်ကမ်းကာ အောင်မြင်စွာ သယ်ယူတော်မူခဲ့ကြရ၏။

(၁) ဘုရားပရိနိဗ္ဗာန်စံပြီးနောက် အနှစ်တရာမြောက်၌ ဝဇ္ဇီတိုင်းသား အဓမ္မဝါဒီ ရဟန်းတို့ တီထွင်ဟောပြောကြသော သိင်္ဂီလောဏကပ္ပ, ဒွင်္ဂုလကပ္ပစသော (၁၀) မျိုးသော အဓမ္မဝါဒအကြောင်း ဝတ္ထုတို့ကို ပယ်ဖျက်ကာ အရှင်ယသထေရ် အမှူးပြုသော (၇၀၀) သော ရဟန္တာအရှင်မြတ်တို့ ဒုတိယ သင်္ဂါယနာတင်တော်မူခဲ့ကြရ၏။

(၂) ထို ဒုတိယသင်္ဂါယနာတင်ပြီးနောက် ဒုတိယသင်္ဂါယနာကို မကျေနပ်ကြသော ထိုဝဇ္ဇီ တိုင်းသား ရဟန်းတို့ကပင် မဟာသံဃိကဂိုဏ်း ဟူ၍ သီးခြားဂိုဏ်း ထူထောင်ခြင်း, ထိုဂိုဏ်းမှ တဆင့် ဂေါကုလိကဂိုဏ်း, ကေဗျောဟာရိကဂိုဏ်း စသည်ဖြင့် ဂိုဏ်းအမျိုးမျိုးခွဲထွက်၍ ဘုရားဟောတရားတော် ကို ဖျက်လိုဖျက် စွက်လိုစွက်ခြင်း, သီရိဓမ္မာသောကမင်းကြီးလက်ထက်၌ ကိုးကွယ်လှူဒါန်းမည့်သူ မရှိ၍ စားရမဲ့ သောက်ရမဲ့ တိတ္ထိယပေါင်း ခြောက်သောင်းတို့သည် မြတ်စွာဘုရား သာသနာတော်တွင်း သို့ ဝင်ရောက်လာကာ မိမိတို့၏ မိစ္ဆာဒိဋ္ဌိအမျိုးမျိုးတို့ကို ဘုရားဟောဓမ္မ ဝိနယဟု ပြောပြခြင်းတည်း ဟူသော မိစ္ဆာဝါဒ အမှိုက်သရိုက် အညစ်အကြေးတို့သည် သာသနာတော်၌ ပေါ်ပေါက်လာကြ ပြန်၏၊

ဤသို့သော မိစ္ဆာဝါဒ အမှိုက်သရိုက် အညစ်အကြေးတို့ကို ဆေးကြောသုတ်သင်ခြင်းငှါ အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်အရှင်မြတ်သည် ကထာဝတ္ထုကျမ်းကို ဟောတော်မူပြီးလျှင် တထောင်သော ရဟန္တာအရှင်မြတ်တို့သည် (အရှင်မဟာကဿပထေရ်, အရှင်မဟာယသထေရ်တို့ သင်္ဂါယနာ တင်တော်မူခဲ့ကြသကဲ့သို့ပင်) တတိယသင်္ဂါယနာတင်တော်မူကြ၏။

(၃) ထိုတတိယသင်္ဂါယနာတင်ပြီး၍ သာသနာနှစ် (၄၄၀) အရောက်တွင် သီဟိုဠ်ကျွန်း၌ ဝဋ္ဋဂါမဏိမင်း နန်းတက်၏၊ နန်းတက်၍ ငါးလမျှအကြာတွင် ဗြာဟ္မဏတိဿသူပုန်နှင့် ကျည်ကုလားဟုခေါ်သော ဒမိဠ (ကမယ်) သူပုန်တို့ တိုက်ကြခိုက်ကြကုန်၏၊ ဗြာဟ္မဏတိဿ ကျဆုံး၍ ဝဋ္ဋဂါမဏိမင်းနှင့် ဒမိဠတို့ တိုက်ကြပြန်ရာ ဝဋ္ဋဂါမဏိအရေးနိမ့်သဖြင့် လွတ်ရာကျွတ်ရာ ထွက်ပြေး တိမ်းရှောင်ကာ (၁၄) နှစ်ကျော် ကာလကြာအောင်[၁] မထင်မရှား အရပ်သားအသွင်ဖြင့် ပုန်းအောင်းနေရ၏၊ ထိုမျှလောက် ကြာမြင့်သော နှစ်များအတွင်း၌ တိုင်းသူပြည်သားတို့မှာ သူခိုးဓားပြ သူပုန် ဘေးလွတ်ရာသို့ ထွက်ပြေးတိမ်းရှောင်ရခြင်း နှင့် မိုးခေါင်၍ ဝတ်မွတ်ခေါင်းပါးမှု ဒုဗ္ဘိက္ခန္တရကပ် ဆိုက်ရောက်နေခြင်းကြောင့် သစ်ရွက် သစ်ဥ သစ်မြစ်တို့ကို မဝတဝစားကာ မိမိတို့အသက်ကို ဆက်ပေးနေကြရ၏။

စိတ္တလတောင်ပေါ်ကျောင်း၌ ရဟန္တာပေါင်း တသောင်းနှစ်ထောင်, တိဿမဟာဝိဟာရ၌လည်း ရဟန္တာပေါင်း တသောင်းနှစ်ထောင် သီတင်းသုံးတော်မူကြ၏။ ထိုနေရာ၌ကား နှစ်ခုလုံး၌ပင် သုံးနှစ်စာမျှ လှူဒါန်းဝတ်ဘည်ထားအပ်သော စပါးအားလုံးကို တညဉ့်တည်းမှာပင် ကြွက်ကြီးများ စားကြသဖြင့် ဖွဲစပါးခွံမျှသာ ကြွင်းကျန်လေတော့၏။ စိတ္တလတောင်ပေါ်မှ ရဟန်းတော်များသည် တိဿမဟာဝိဟာရ၌ မှီနေထိုင်ရတော့မည် ဟူသော အကြံအစည်ဖြင့် တောင်ပေါ်မှ ဆင်းလာခဲ့ကြ၏။ မဟာဝိဟာရမှ ရဟန်းတော်များကလည်း စိတ္တလတောင်ပေါ်၌ အမှီတကဲပြုရတော့မည် ဟူသော အကြံဖြင့် မိမိတို့ ကျောင်းတိုက်မှ ထွက်လာတော်မူကြ၏။ ထိုကျောင်းတိုက် နှစ်တိုက်လုံးမှ ရဟန်းတော်ပေါင်း နှစ်သောင်းလေးထောင်တို့သည် ချောက်ကမ်းပါးတခုမှာ ဆုံမိကြ၍ သူ့ကျောင်း ကိုယ့်ကျောင်း အသီးအသီးမှ စပါးတွေအားလုံး ကြွက်တွေခဲစားပြီး ဖြစ်ကြောင်း ပြောပြပြီးကြသောအခါ ထိုချောက်ရှိရာ တောအတွင်းမှာပင် ထိုင်လျက် ပရိနိဗ္ဗာန်ပြုတော်မူကြကုန်၏။ (အဘိ၊ဋ္ဌ ၂။၄၂။)

ထိုအချိန်က သူပုန်ဘေးနှင့် ဒုဗ္ဘိက္ခန္တရကပ်ကြောင့် သီဟိုဠ်ကျွန်းမှ ရဟန်းတော် အမြောက်အမြားပင် သိကြားမင်း ဖန်ဆင်းပေးသော လှေဖောင်ကြီး စီး၍ ဇမ္ဗူဒိပ် (အိန္ဒိယနိုင်ငံဘက်)သို့ ကူးပြောင်းကာ ပိဋကတ်ကျမ်းဂန်တို့ကို မကွယ်ပျောက်အောင် နှုတ်ငုံဆောင်၍ ထိန်းသိမ်းစောင့်ရှောက်နေတော်မူကြကုန်၏၊ အိန္ဒိယနိုင်ငံဘက်သို့ မကူးပြောင်းလိုကြသော ရဟန်းတော်ခြောက်ကျိပ်တို့သည်ကား လှေဖောင်သွက်ရာ သမုဒ္ဒရာကမ်းမှ ပြန်လှည့်လာကြကာ ဒက္ခိဏမလယဇနပုဒ်သို့ ကြွသွားကြပြီးလျှင် သစ်ဥ သစ်မြစ် သစ်ရွက်တို့ကို မလောက်မငမျှဘုဉ်းပေး၍ ပိဋကကျမ်းဂန်တို့ကို ရွတ်အံတော်မူကြ၏။ ခန္ဓာကိုယ် စွမ်းဆောင်နိုင်သေးသည့် အချိန်တွင် ထိုင်လျက်ရွတ်အံ၍ မစွမ်းဆောင်နိုင်သည့်အခါ အလယ်ခေါင်၌ သဲပုံလျက် ထိုသဲပုံကို ဝိုင်းရံမှီ၍ ခေါင်းချင်း

---

၁။ ဒီပဝံသ၊၁၉-အပိုင်း၊၄၀-ဂါထာနှင့် မဟာဝံသ၊၃၃-အပိုင်း ၆၂-ဂါထာတို့၌ ဒမိဠမင်းတို့မင်းပြုသောကာလကို ၁၄-နှစ် ၇-လဟု ပြဆိုထား၏၊ အင်္ဂုတ္တိုရ်ဋ္ဌ၊၁၊၇၁၊ သံယုတ်ဋ္ဌ၊၂၊ ၁၀၂ တို့၌ ပြထားသော ဇာတ်ကြောင်းများအတိုင်းဆိုရလျှင်ကား သူပုန်ဘေးကာလ(ဒမိဠတို့ မင်းပြုရာကာလ) မှာ ၁၂ နှစ်သာတည်း၊ ထိုအပြင် ၎င်းအဋ္ဌကထာတို့၌ ဗြာဟ္မဏတိဿဘယ (စဏ္ဍာလတိဿ မဟာဘယ) ဟူသော ဘေးရ၏၊ ဒမိဠဘယဟု (ဒမိဠတို့အကြောင်းကို အနည်းငယ်မျှ)မတွေ့ရ။

ဆိုင်ကာ ပိဋကကျမ်းဂန်ကို စိတ်ဖြင့် ဆင်ခြင်သုံးသပ်တော်မူကြကုန်၏။ ဤနည်းအားဖြင့် ၁၂-နှစ်တိုင်တိုင် အလွန်အံ့သြဘွယ်ကောင်းလောက်အောင် ကြီးမားလှစွာသော ဇွဲလုံ့လဝီရိယဖြင့် အဋ္ဌကထာနှင့်တကွ ပိဋကသုံးပုံကို အပြည့်အစုံ နှုတ်ငုံဆောင်ကာ မကွယ်ပျောက်အောင် စောင့်ရှောက်တော်မူကြကုန်၏။ (အံ၊ဋ္ဌ၊၁။၇၁။ အဘိ၊ဋ္ဌ၊၂။၄၂၇။ သာသနဝံသပ္ပဒီပိကာ။၂၄။)

ဝဋ္ဋဂါမဏိမင်း (ပိဘုမင်း)သည် ဒါဌိကမည်သော ဒမိဠမင်းကို သတ်၍ နန်းတက်သဖြင့်[၁] သူပုန်ဘေး ငြိမ်းအေးသောအခါ ယခင်က အိန္ဒိယနိုင်ငံဘက်သို့ ပြောင်းရွှေ့သွားကြသော ရဟန်းတော်တို့သည် သီဟိုဠ်ကျွန်းသို့ ပြန်ကြွလာကြပြီးလျှင် (အိန္ဒိယသို့ မလိုက်ပဲ သီဟိုဠ်ကျွန်း မလယဇနပုဒ်၌ ကျန်ရစ်ခဲ့သော) ယခင် ရဟန်းခြောက်ကျိပ်တို့နှင့် အတူတကွ စုပေါင်းကြလျက် ၎င်းတို့ နှုတ်ဘက်ဆောင်ထားသော ပိဋကသုံးပုံကို ပုဒ်အက္ခရာချင်း တူမတူ တိုက်ဆိုင်သုတ်သင်ကြသောအခါ အက္ခရာ တလုံးတလေမျှ မတူညီသည်မရှိ တထပ်တည်းကျ တူညီမျှသည်ချည်းသာ တွေ့ကြရကုန်၏။

ဤအချိန်ကာလအထိ ပိဋကသုံးပုံကို နှုတ်ငုံဆောင်လာတော်မူခဲ့ကြသော ထိုရဟန်းတော် ထေရ်ချင်မြတ်တို့သည် နောင်လာနောက်သား ပုဂ္ဂိုလ်အများတို့ သတိဉာဏ်ပညာ ဆုတ်ယုတ်လျှင်၎င်း, ငတ်မွတ်ခေါင်းပါးခြင်း စသော ဘေးနှင့် တွေ့ကြုံလျှင်၎င်း ပိဋကသုံးပုံကို ယခုကဲ့သို့ နှုတ်ငုံဆောင်ထားရန် ခဲယဉ်းမည်ကို မြော်မြင်တော်မူကြ၏။ ထို့အပြင် စင်ကြယ်သော ထေရဝါဒပိဋကတ်တော် အတွင်း၌ အခြားသော ဂိုဏ်းဂဏတို့၏ မသန့်ရှင်းသော အယူဝါဒများ ရောစွက်ထည့်သွင်းမှု ကင်းရှင်းစေလိုသော ဆန္ဒလည်း ပြင်းပြတော်မူကြ၏။ ထို့ကြောင့် ထိုရဟန်းတော် ထေရ်ချင်မြတ်တို့သည် အနုရာဓမြို့တော်မှ ဧဂ-မိုင်ဝေးသော မလယဇနပုဒ်, မာတုလမြို့အနီးရှိ အာလောကလိုဏ်၌ သိတင်းသုံးတော်မူကြလျက် ပိဋကသုံးပုံကို ပေထက်အက္ခရာတင်ခြင်း (ပေချွက်ပေါ်၌ ရေးသားခြင်း)ကိစ္စကို ဆောင်ရွက်တော်မူကြကုန်၏[၂]။

ဤသို့လျှင် ခိုးသား ဓမြ သူပုန်ဘေးကြောင့် တိုင်းပြည် မငြိမ်မသက် ယောက်ယက်ခတ်နေသည်သာမက ငတ်မွတ်ခေါင်းပါးခြင်းဘေး ဆိုက်ရောက်တွေ့ကြုံနေသည့် အတောအတွင်းမှာပင် အရှင်မဟာကဿပ အစရှိသော ရဟန္တာအရှင်မြတ်တို့ သင်္ဂါယနာတင်ခဲ့ကြသည့် စာမူအတိုင်း အက္ခရာတလုံးတလေမျှ မပျက်မယွင်း မပိုမလိုရအောင် ပိဋကသုံးဖြာ ရတနာကို နှုတ်တက်အာဂုံ ဆောင်တော်မူခဲ့ကြပြီးလျှင် နောင်ရေးနောင်တာအတွက်ပါ ကြောင့်ကြကြီးစွာ ဖြင့် ပေထက်အက္ခရာတင်တော်မူကြကာ ချစ်လှစွာသော တဦးတည်းသော သားရတနာကို စောင့်ရှောက်သည့် မိခင်ကြီးပမာ ကြီးစွာသော ဉာဏ်ဝီရိယ, စွဲမြဲသောသတိဖြင့် ထိုပိဋကတော်များကို စောင့်ရှောက်တော်မူခဲ့ကြသော ထိုထေရ်အရှင်မြတ်တို့၏ အဆုံးအပိုင်းအခြား မထင်သော အနန္တဂုဏ်တော် ကျေးဇူးတော်တို့သည် နောင်လာနောက်သား ပုဂ္ဂိုလ်များ၏ ပစ္စုပ္ပန်သံသရာ နှစ်ဖြာလုံးအတွက် အလွန်အလွန် ကြီးမားများပြားလှစွာသော အားကိုးအားထားရာ ဖြစ်ကြပေကုန်၏။

---

၁။ မဟာဝံသ၊ ၃၃ အပိုင်း၊ ၇၈-ဂါထာအတိုင်း "ဒမိဠမင်းကိုသတ်၍ နန်းတက်သည်"ဟု ပြဆိုခြင်းဖြစ်သည်၊ အဘိဋ္ဌ၊၂။၄၂၃-၌ကား "ဗြာဟ္မဏတိဿ စောရဘယ မဟာတိဿ ဘုရား ဆက္ကံ ဥဿာဒေသိ"ဟု မိန့်ဆိုသည်။

၂။ ဒီပဝံသ၊ ၁၉-အပိုင်း၊ ၃၃၊ ၃၄-ဂါထာ။ မဟာဝံသ၊ ၃၃-အပိုင်း၊ ၁၀၂၊ ၁၀၃-ဂါထာ။ သာသနဝံသပ္ပဒီပိကာ၊ နှာ ၂၆။ ဝိသုဒ္ဓိမဂ္ဂ၊ နိဒါနကထာ၊ နှာ၊ ၂၂။

## အဋ္ဌကထာ ဋီကာတို့၏ ကျေးဇူး

ထိုမျှလောက် ဇွဲလုံ့လကြီးမားစွာဖြင့် ပိဋကသုံးပုံကို နှုတ်ငုံဆောင်တော်မူခဲ့ကြသော ထိုထေရ်ရှင်မြတ်တို့၏ ဂုဏ်ကျေးဇူးတို့ကို ပြဆိုပြီးနောက် သာသနာတော်လောကမြင်ကွင်းမှ အသယ်အခါမျှ ကွယ်ပျောက် မသွားနိုင်အောင် အမြဲတမ်း ပေါ်လွင်ထင်ရှားနေသော အဋ္ဌကထာ ဋီကာကျမ်း, သဒ္ဒါကျမ်းစသော ကျမ်းပြုသခင် ထေရ်အရှင်တို့၏ ကျေးဇူးဘွဲ့ကိုလည်း ပော်ပြပါဦးမည်။

ယခင်က ပြဆိုခဲ့သည့်အတိုင်း ဘုရားဟော ပိဋကပါဠိတော်များသည် အလွန်ခက်ခဲနက်နဲရကား အဋ္ဌကထာ ဋီကာတို့ကသာ မဖွင့်ပြခဲ့လျှင် ယင်းပါဠိတော်တို့၏ဆိုလိုရင်း အနက်အဓိပ္ပါယ်ကို ရှင်းလင်းစွာ အကျယ်တဝင့် သိနိုင်ရန် မလွယ်ကူ၊ ယင်းသို့ မသိနိုင်လျှင် ပါဠိတော်များကို မြန်မာပြန်တတ်ရန်ပင် လွယ်ကူမည် မဟုတ်တော့ပေ၊ ထို့ကြောင့် ပါဠိတော်ကျမ်းစာအုပ်ရေ (၄၀)ကို အကျယ်တဝင့် ဖွင့်ပြသော အဋ္ဌကထာကျမ်းစာအုပ်ပေါင်း (၅၁)အုပ်ရှိ၍ ၎င်းအဋ္ဌကထာတို့ကို အကျယ်တဝင့် ဖွင့်ပြသော ဋီကာအုပ်ရေပေါင်း (၂၆)အုပ် ရှိ၏[1]။

အရှင်မဟာဗုဒ္ဓဃောသ, အရှင်ဓမ္မပါလစသော ထေရ်ရှင်မြတ်တို့ ရေးသားခဲ့ကြသော ယခုလက်ရှိ အဋ္ဌကထာများ မပေါ်ထွက်မီ ရှေးကပင် သင်္ဂါယနာသုံးတန် တင်သားအပ်ပြီး ဖြစ်သော (ပကိဏ္ဏက ဒေသနာဟု ခေါ်သော) ရှေးအဋ္ဌကထာများ ရှိခဲ့ပြီး ဖြစ်၏၊ ထိုရှေး အဋ္ဌကထာတို့ကို အရှင်မဟာမဟိန္ဒထေရ်သည် ဇမ္ဗူဒိပ်မှ သီဟိုဠ်ကျွန်းသို့ သယ်ဆောင်လာပြီးလျှင် သီဟိုဠ်ကျွန်းသားတို့ သင်ယူနိုင်အောင် သီဟိုဠ်ဘာသာသို့ ပြန်ဆိုတော်မူ၏။

## အရှင်မဟာဗုဒ္ဓဃောသ အဋ္ဌကထာသစ် ရေးသားပုံ

သာသနာတော်နှစ် ကိုးရာပြည့်ပြီးသည့် နောက်ပိုင်း၌ကား အရှင်မဟာဗုဒ္ဓဃောသထေရ်သည် ဇမ္ဗူဒိပ်ကျွန်းသားအားလုံး သင်ယူနိုင်ခြင်းငှါ သီဟိုဠ်ဘာသာဖြင့် ရှိနေသော မဟာအဋ္ဌကထာ, မဟာပစ္စရိအဋ္ဌကထာ, ကုရုန္ဒီအဋ္ဌကထာ ဟူသော ရှေးအဋ္ဌကထာ သုံးစောင်တို့တွင် ပင်ရင်းမူလဖြစ်သော မဟာအဋ္ဌကထာကို ပင်ကိုယ်မူတည် (သရီရ)ပြု၍ ပါဠိဘာသာသို့ပြန်ဆိုကာ အဋ္ဌကထာကျမ်းသစ် ရေးသားပြုစုတော်မူ၏။ ကျန်သော အဋ္ဌကထာ နှစ်စောင်နှင့် အန္ဓကအဋ္ဌကထာ, သင်္ခေပအဋ္ဌကထာ တို့မှ ယူသင့်သမျှ အဆိုအမိန့် ဝိနိစ္ဆယဘို့ကိုင်း, ထေရဝါဒဝိနိစ္ဆယတို့ကိုင်း အစုံအလင်ပါဝင်အောင်လည်း ထိုအဋ္ဌကထာသစ်အတွင်း၌ ထည့်သွင်းရေးသားတော်မူ၏။

ထိုသို့ ရေးသားရာ၌ "ဝိတ္ထာရမဂ္ဂဥ္စ သမာသယိတွာ" ဟူသော (ပါရာဇိကကဏ်အဋ္ဌကထာ ဂန္ထာရမ္ဘ)ပဋိညာဉ်နှင့်အညီ ကျယ်ဝန်းသော ထိုရှေးအဋ္ဌကထာတို့ကို အကျဉ်းချုံးထားသောကြောင့် အရှင်ဗုဒ္ဓဃောသထေရ်၏ အဋ္ဌကထာသစ်ကို သင်္ဂဟအဋ္ဌကထာဟု ခေါ်တွင်၏၊ ထိုသို့ အကျဉ်းချုံး ရေးသားရာ၌ ဆိုင်ရာအခက်းသို့ မရောက်မီ (စကားအလျဉ်းသင့်သဖြင့်) ကြိုတင်ဖွင့်ဆို ရေးသားထားသော ရှေးအဋ္ဌကထာ စကားများကို ချန်ထားခဲ့ပြီးလျှင် ဆိုင်ရာအခက်းရောက်မှသာ ဖွင့်ပြသောအားဖြင့်လည်း အကျဉ်းချုံး၏၊ (ဝိ၊ဋ္ဌ၊၁။၁၇၂၊၂၀၇)။

---

[1]။ မူရင်းပါဠိတော်ကို ဖွင့်ပြသော အဋ္ဌကထာ ဋီကာ အုပ်ရေကိုသာ ပြထားခြင်းဖြစ်သည်၊ ထို့ကြောင့် ထိုအရေအတွက်၌ အဘိဓမ္မာဝတာရ, အဘိဓမ္မတ္ထသင်္ဂဟ စသည်တို့နှင့် ဆိုင်ရာဋီကာ မြောက်မြားစွာတို့ မပါဝင်သေး။

ဖွင့်ဆိုပြီးသော ပုဒ်ဘို့ကို ထပ်၍ မဖွင့်ဆိုတော့ပဲ မြန်၍ ညွှန်ပြခြင်း (အတိဒေသသံဝဏ္ဏနာ) အားဖြင့်လည်း အကျဉ်းချုံး၏၊ ယင်းသို့ အကျဉ်းချုံးရုံမျှမကပဲ "ဝဇ္ဇယိတွာန ပမာဒလေခံ" ဟူသည်နှင့်အညီ မဟာအဋ္ဌကထာမှ ပမာဒလေခတို့ကိုလည်း ဖယ်ရှားတော်မူခဲ့၏၊ (ဝိ၊ဋ္ဌ၊၁။၂၇၀၊၂၇၈။) ထို မဟာအဋ္ဌကထာမှ မသင့်မြတ်သော အဆိုဘချို့ကိုလည်း ပယ်ဖျက်ကာ ဆိုင်ရာပါဠိတော်နှင့် အခြား အဋ္ဌကထာတို့ကို ကိုးကား၍ မှန်ကန်တိကျသော ဝိနိစ္ဆယတို့ကိုလည်း ချပြတော်မူ၏၊ (ဝိ၊ဋ္ဌ၊၁။၂၇၄။ အဘိ၊ဋ္ဌ၊၁။၁၂၈)။ ပါဠိတော်နှင့် ဆန့်ကျင်သကဲ့သို့ ထင်ရသော အဋ္ဌကထာစကားများကိုလည်း ပါဠိ အဋ္ဌကထာနှစ်ရပ် ဆက်စပ်ညီနိုင်းကာ တသားတည်းတူညီကြောင်း ပြတော်မူ၏။ (ဝိ၊ဋ္ဌ၊၁။၂၆၀)။

ထို့အပြင် ယခုအခါဝယ် ပါဠိတော်ကို မြန်မာပြန်ဆိုရာ၌ အလွန်ကျေးဇူးများသော အနုပုဗ္ဗပဒသံဝဏ္ဏနာ, အနုတ္တာနတ္ထပဒသံဝဏ္ဏနာနည်းဖြင့် ပါဠိကပုဒ်, တပုဒ်၏မူရင်းအနက် (သဒ္ဒတ္ထ)ကိုရင်း, ဆိုလိုရင်းအနက် (အဓိပ္ပါယတ္ထ)ကိုရင်း, တဝါကျလုံး၏ဆိုလိုရင်း အဓိပ္ပါယတ္ထကိုရင်း အစုံအလင်ဖွင့်ပြတော်မူ၏။

ဤကဲ့သို့ ကျဉ်းလည်းကျဉ်း, ရှင်းလည်းရှင်း, ပြည့်စုံလည်း ပြည့်စုံသဖြင့် ပညာရှိတို့၏ စိတ်အစဉ်ကို ကြည်လင်ရွှင်ပျ အားရကျေနပ်စေခြင်း (သမန္တပါသာဒိက)ဂုဏ် ပြည့်စုံအောင် ရေးသားထားသော အရှင်မဟာဗုဒ္ဓဃောသထေရ်၏ အဋ္ဌကထာများ (အရှင်မဟာပါလထေရ် စသည်တို့၏ အဋ္ဌကထာများ) ပေါ်ထွက်လာသောအခါ သာသနာနှစ် (၉၀၀) ကျော်ကျော်လောက်အထိ ထွန်းတောက်တင့်တယ် ထယ်ဝါလာခဲ့ကြသော မဟာအဋ္ဌကထာ, မဟာပစ္စရိအဋ္ဌကထာ အစရှိသော ရှေးရှေး အဋ္ဌကထာကျမ်းစာ လဝန်းကြီးဘို့သည် သင်ယူပို့ချမှု, တဆင့်ကူးယူရေးသားမှု တဖြေးဖြေး နည်းပါးလာခြင်း တည်းဟူသော ဆီးနှင်းမြူတိမ်များ ဖုံးအုပ်ခံရသော ရွှေကျမ်းစာ, လစန္ဒာကြီးများအဖြစ်သို့ ရောက်လျက် အသစ်စက်စက် အဋ္ဌကထာ, ကျမ်းစာလဝန်း ပေါ်ထွန်းသာရေး, အခွင့်ပေးကာ ရောင်ဝါသေးသိမ် မှေးမှိန် ကွယ်ပျောက်ကြလေကုန်၏။

အဋ္ဌကထာသစ်များပေါ်ထွန်းလာပြီးနောက် ထိုအဋ္ဌကထာတို့မှ နောင်လာနောက်သားတို့အတွက် အသိခက်လောက်သည့်ပုဒ်ဝါကျတို့၏ အနက်အဓိပ္ပါယ်တို့ကို ဖွင့်ဆိုရေးသားသော ဋီကာကျမ်းများပေါ်ထွန်းလာကုန်၏။ ထိုဋီကာဘို့သည် အဋ္ဌကထာမှပုဒ်ဝါကျတို့၏ သဒ္ဒတ္ထ အဓိပ္ပါယတ္ထတို့ကို စုံလင်စွာဖွင့်ပြကြသည်သာမက အဋ္ဌကထာမဖွင့်ပြခဲ့သောပါဠိတော်ပုဒ်ဝါကျ အကြွင်းအကျန်တို့ကိုပါ ဖွင့်ပြတော်မူကြ၏။ ထိုဋီကာအဖွင့်တို့ကို ကြည့်၍ အဋ္ဌကထာကို အနက်ပြန်ဆိုနိုင်ခြင်း, အဋ္ဌကထာ၏ အကျယ်တဝင့် အဓိပ္ပါယ်ကိုလည်း သိနိုင်ကြခြင်းဖြစ်၏။ ထို့ကြောင့် ဋီကာဘို့သည် အမှန်ဘက ယ်လိုအပ်ချက်တို့ကို ဖြည့်စွက်ပေးသည်သာဖြစ်သောကြောင့် နောင်လာနောက်သားတို့၏ အားကိုးအားထားရာ ကျမ်းစာများပင် ဖြစ်ကုန်၏။

ဤသို့လျှင် ပါဠိတော်၏ အနက်အဓိပ္ပါယ်တို့ကို စုံလင်စွာ သိဖို့အရေး၌ အဋ္ဌကထာဋီကာတို့သည် မရှိလျှင်မဖြစ်, မသင်ယူမပို့ချလျှင်လည်း မဖြစ်သော ကျမ်းစာများ ဖြစ်ရကား ရှေးခေတ်ခုခါ သာသနာဝန်ဆောင် ရှင်ရဟန်းတို့သည် ပါဠိတော် အဋ္ဌကထာ ဋီကာ သုံးမျိုးလုံး ကျွမ်းကျင်အောင် သင်ယူပို့ချတော်မူကြကုန်၏၊ ထိုအဋ္ဌကထာ ဋီကာအဖွင့်တို့ကိုကြည့်၍ ရေးသားထားသော ပါဠိတော် နိဿယ, အဋ္ဌကထာ နိဿယ, ယောဇနာ, ဂဏ္ဌိ, အရကောက် စသော မြန်မာလိုအဖွင့်ကျမ်းစာများလည်း ပေါ်ထွက်လာကုန်၏၊ ပေါ်ထွက်လာသော ထိုနိဿယ စသော ကျမ်းတို့ကို အမှီတကဲပြုကာ

ပါဠိတော် အဋ္ဌကထာ ဋီကာတို့ကို သင်ယူလေ့ကျက်ရခြင်းကြောင့်လည်း မြန်မာပြည်ဘွား စာသင်သားတို့သည် ပိဋကတ်ကျမ်းကျင် ပညာရှင်အဖြစ်သို့ ရောက်ကြကုန်၏။

### သဒ္ဒါကျမ်းတို့၏ အခန်းကဏ္ဍ

ကမ္ဘာ့သမိုင်း ကျမ်းဆရာတို့အဆိုအရ ယဉ်ကျေးသောအဆင့်သို့ မရောက်သေးသော ရှေးခေတ်လူတို့သည် မိမိတို့ပြောသော စကားများကို စာဖြင့်ရေးသားပြရန် အက္ခရာစာလုံးမျှပင် မဘီထွင်ကြရသေး၊ တဖြည်းဖြည်း ယဉ်ကျေးလာသည့်အခါကျမှသာလျှင် အက္ခရာစာလုံးများတီထွင်ကာ မိမိတို့သိစေလိုသော အကြောင်းအရာများကို ထိုစာလုံးများဖြင့် ရေးသားပြကြရ၏၊ သို့သော် စာစည်းကမ်း (သဒ္ဒါစည်းကမ်း)မရှိပဲ ရေးလိုရာကို ကောက်ရေးလိုက်လျှင်လည်း မိမိဆိုလိုသော အဓိပ္ပါယ်သို့ မရောက်ပဲ အဓိပ္ပါယ်အမျိုးမျိုး ကောက်ယူနိုင်ခြင်း, အဓိပ္ပါယ်လွဲမှား ပျက်ပြားသွားခြင်းများ ဖြစ်လာနိုင်၏၊ ထို့ကြောင့် မိမိတို့ ဆိုလိုရင်းအဓိပ္ပါယ်ကို တိတိကျကျ သိနားလည်စေရန် မှန်ကန်သော စကားလုံး သတ်ပုံ, မှန်ကန်သော စကားဝါကျတို့ဖြင့် ရေးသားရ၏၊ ထိုကဲ့သို့ရေးသားနိုင်ရန် မိမိတို့ဘာသာ စကားကို ထိန်းသိမ်းစောင့်ရှောက်သည့် စာစည်းကမ်း, သဒ္ဒါစည်းကမ်းကို သတ်မှတ်ဖော်ပြသော သဒ္ဒါကျမ်းများ လိုအပ်လျက်ရှိရကား များစွာသော လူမျိုးတို့သည် မိမိတို့ဘာသာဆိုင်ရာဆိုင်ရာ သဒ္ဒါကျမ်းများကို ပြုစုရေးသားကြ၏၊ ထိုသဒ္ဒါစည်းကမ်းချက်များနှင့်အညီ ကတ္တားပုဒ်ရှိရမည့်နေရာ၌ ကတ္တားပုဒ်ကိုရေး၍ရင်း, ကံပုဒ်ရှိရမည့်နေရာ၌ ကံပုဒ်ကိုရေး၍ရင်း, ကရိုဏ်း သမ္ပဒါန် အပါဒါန် စသည်သုံးရမည့်နေရာသုံး၍ရင်း, ကြိယာဝိသေသနဖြင့် ရေးရမည့်နေရာ၌ ကြိယာဝိသေသနရေး၍ရင်း, စာလုံးပေါင်း သတ်ပုံကိုလည်း မှန်ကန်စေလျက်ရင်း မိမိတို့ရေးလိုသော အကြောင်းအရာများကို ရေးသားကြ၏။

ကိလေသာစိတ်ဓာတ်အညစ်အကြေး ကင်းဝေးစင်ကြယ်တော်မူ၍ ယဉ်ကျေးမှု၌ ထိပ်ဆုံးအဆင့်သို့ရောက်တော်မူသော သဗ္ဗညုမြတ်စွာဘုရား ဟောကြားတော်မူအပ်သော တရားဒေသနာ ပါဠိတော်များသည် (ကျမ်းစာများ ရေးသားပြုစုသကဲ့သို့ စာဖြင့် ရေးသားထားသည်မဟုတ်ပဲ ပေါ်ပေါက်လာသော အကြောင်းအတ္ထုပ္ပတ္တိအားလျော်စွာ နှုတ်တော်ဖြင့် ဟောကြားထားသည် ဖြစ်လျက်ပင်) အလွန်စည်းကမ်းကျနလှ၏၊ သိထိလ, ဓနိတ စသော အသံထွက် အက္ခရာ, ကဏ္ဌဇ တာလုဇ စသော အသံထွက် အက္ခရာ, ဃောသ အဃောသစသော အသံထွက် အက္ခရာ စာလုံးပေါင်းများလည်း မှန်ကန်ပီသအောင် ဟောကြားတော်မူအပ်သော ဒေသနာတော်များလည်း ဖြစ်၏။ သက်ဆိုင်ရာကြိယာနှင့်ကိုက်ညီအောင် ကတ္တား ကံ ကရိုဏ်း သမ္ပဒါန် အပါဒါန် စသော ကာရကတို့ကို မှန်ကန်စွာ သုံးစွဲထားသည်သာမက ရှတ်ဖတ်၍လည်း ချောညက်ကောင်းမွန်အောင် ဟောကြားထားအပ်သော ဒေသနာတော်များလည်း ဖြစ်၏၊ အလွန်အရသာရှိလှသော ခဲဖွယ်ဘောဇဉ်တို့၌ ဇီယာ ကရဝေး စသော အမွှေးအကြိုင်အနံ့များ ထည့်ခတ်ထားသကဲ့သို့ သဘိပဋ္ဌာန်, သမ္ပပ္ပမာန် စသော အနက်အဓိပ္ပါယ် အနှစ်သာရတရားဓမ္မများအပေါ်တွင် စကားစည်းကမ်းဘောင်များတော်လျက် ချောညက်ညီညာ သာယာနာပျော်ဖွယ်ရှိအောင် သေသေသပ်သပ် ဟောကြားထားအပ်သော ထိုပါဠိတော်ဒေသနာဓမ္မများကို စည်းကမ်းမပျက် (နဂိုမူမပျက်)အောင် ထိန်းသိမ်းစောင့်ရှောက်သည့် ပါဠိသဒ္ဒါကျမ်းများလည်း မလွဲမသွေ ရှိရမည်သာဖြစ်၏။ ထို့ကြောင့် ကစ္စည်းသဒ္ဒါကြီး, သဒ္ဒနီတိ, မောဂ္ဂလ္လာန်ဟူသော ပင်မ ပါဠိသဒ္ဒါကျမ်း များနှင့် နျာသ, ရူပသိဒ္ဓိ, စသော အဖွင့်သဒ္ဒါကျမ်းများ ဆင့်ကဲဆင့်ကဲ ပေါ်ထွက်လာသည်မှာ လိုလေသေးမရှိ ပြည့်စုံပြီဟု ဆိုသင့်ဆိုထိုက်လှပေ၏။

ပါဠိအဋ္ဌကထာ ဋီကာ ပိဋကကျမ်းစာတို့ကို တတ်မြောက်လိုသော ပုဂ္ဂိုလ်တို့မှာ အဆိုပါ ပါဠိသဒ္ဒါကျမ်းတခုခုကို ရှေးဦးစွာ ကြိုတင်မသင်ယူပဲ ပိဋကကျမ်းစာများကို အလျင်စလို သင်ယူလျှင် ပို၍ ခက်ခဲမည်,ကြန့်ကြာမည်သာမက "ဝနေ အန္ဓဂဇော ယထာ"ဟူသည်နှင့် အညီ တောထဲ၌ မသွားတတ် မလာတတ် ချာချာပတ်နေသော ဆင်ကန်းကြီးကဲ့သို့ နာမ်ပုဒ်, သမာသ်ပုဒ်, တဒ္ဓိတ်ပုဒ်, အာချာတ်ပုဒ်, ကိတ်ပုဒ်, ဥပသာရပုဒ်, နိပါတ်ပုဒ်တို့၌ သေချာစွာ ခွဲခြားသိနိုင်သော ဉာဏ်မျက်စိ ကန်းနေသောကြောင့် အနက်အဓိပ္ပါယ်ကို မှန်ကန်တိကျစွာ မသိနိုင်ရကား ပိဋကကျမ်းစာတောကြီးထဲ၌ တဝဲလယ် လယ်သွားနေရမည်သာ ဖြစ်၏။

ထို့ကြောင့် ပိဋကကျမ်းစာကို မသင်ယူမီ ရှေးဦးစွာ ကစ္စည်းသဒ္ဒါကြီးစသော ပါဠိသဒ္ဒါကျမ်း တခုခုကို ကြိုဘင် သင်ယူလေ့လာပြီးဖြစ်နှင့် ရာ၏၊ သို့မှသာ "သဒ္ဒါတတ်မှ စာတတ်သည်၊ သဒ္ဒါပိုင်မှ စာနိုင်သည်" ဟူသော ဆိုရိုးစကားအတိုင်း ပါဠိအဋ္ဌကထာတို့၌ ပါရှိသော နာမ်ပုဒ်, သမာသ်ပုဒ်, တဒ္ဓိတ်ပုဒ် စသည်တို့၌ သဒ္ဒါကျမ်းစည်းကမ်းချက်တို့ဖြင့် ပိုင်နိုင်စွာ စိစစ်နိုင်၏၊ အက္ခရာပုဒ်ပါဠိ အမှားအမှန်ကို ခွဲခြား ဝေဖန်သိနိုင်၏။ ထိုကဲ့သို့ ရင့်သန်ထက်မြက်လာသော အက္ခရကောသလ္လဉာဏ်ကို အခြေခံ၍ ပါဠိအဋ္ဌကထာတို့၏ ဆိုလိုရင်းအနက်အဓိပ္ပါယ်ကို မှန်ကန်တိကျစွာ သိသော ပိဋကကျွမ်းကျင် ပညာရှင်အဖြစ်သို့ ရောက်နိုင်မည်ဖြစ်၏။

ဤသို့လျှင် ကစ္စည်းသဒ္ဒါကြီး စသော သဒ္ဒါကျမ်းများသည် ပိဋကတိုက်ကြီးသို့ တက်ဖို့ရာ လှေကားကြီးများ ဖြစ်ကြသည်အားလျော်စွာ မရှိလျှင် မဖြစ်, မသင်ယူလျှင် မဖြစ်သောကြောင့် နောက်နောက် သာသနဝန်ထမ်းတို့အတွက် လိုလေးသေးမရှိ ပြည့်စုံပြီဟု ဆိုရလောက်အောင် ရေးသား ပြုစုတော်မူခဲ့ကြသော ရှေးရှေးသဒ္ဒါကျမ်းပြု ထေရ်ရှင်မြတ်တို့၏ ကျေးဇူးသည်လည်း အလွန်ပင် ကြီးမားလှပါပေသည်။

## သဒ္ဒါကျမ်းနှင့် အဘိဓာန်ကျမ်းတို့၏ တာဝန်နှစ်ရပ်

ဘာသာစာပေတို့ကို စည်းကမ်း ဥပဒေဘောင်များခတ်လျက် သပ်သပ်ယပ်ယပ်ရှိအောင် သဒ္ဒါကျမ်းများက ထိန်းသိမ်းစောင့်ရှောက်သကဲ့သို့ အဘိဓာန်ကျမ်းများကလည်း ထိန်းသိမ်းစောင့်ရှောက်၏၊ ယင်းသို့ ထိန်းသိမ်းစောင့်ရှောက်ရာ၌ သဒ္ဒါကျမ်းသည် တာဝန်နှစ်မျိုးနှစ်စားကို ထမ်းလျက် ထိန်းသိမ်းစောင့်ရှောက်၏၊ ယင်း တာဝန်နှစ်မျိုးမှာ—

(၁) ကာရက, အကာရကတို့ကို ၎င်းတို့၏ ကြိယာပုဒ်စသည်တို့နှင့် တွဲစပ်ရေးသားရာ၌ ဝိဘတ်အသုံးအနှုန်း မှန်ကန်စေခြင်းအားဖြင့် စကားဝါကျတခုလုံး ရေးပုံရေးနည်း စည်းကမ်းသတ်မှတ်၍လည်း ထိန်းသိမ်းစောင့်ရှောက်၏၊ ဥပမာအားဖြင့်—

ပေးလှူခြင်းကြိယာ (ဒါနတ်)နှင့် ဆိုင်သော စကားဝါကျ စီကုံးရေးသားရာ၌ အလှူခံပုဂ္ဂိုလ်ကို ဖော်ပြသော ဝေါဟာရပုဒ်၌ (ဘိက္ခုဿ စီဝရံ ဒေတိ= ရဟန်းအား သင်္ကန်းကို ပေးလှူ၏)ဟု သမ္ပဒါန်ဝိဘတ်ဖြင့်သာ ရေးရမည်၊(ဘိက္ခုံ စီဝရံ ဒေတိ=ရဟန်းကို သင်္ကန်းကိုပေးလှူ၏)ဟု ဒုတိယာဝိဘတ်ဖြင့် မရေးရ။

ဖဲ့ခွါခြင်းကြိယာနှင့် သက်ဆိုင်သော စကားဝါကျစီကုံးရေးသားရာ၌ ဖဲ့ခွါခဲ့ရာဌာနကိုဖော်ပြသော ပုဒ်၌ (ဂါမာ အပေတိ=ရွာမှဖဲ့ခွါ၏)ဟု အပါဒါန်ဝိဘတ်ဖြင့်သာ ရေးရမည်၊ (ဂါမံ အပေတိ=ရွာကို ဖဲ့ခွါ၏) စသည်ဖြင့် အခြား ဝိဘတ်ဖြင့် မရေးရ။

လူတယောက်၏ဂုဏ်ဝိသေသနကို ဖော်ဆုတ် ရေးသားရာ၌၎င်း, ကိုယ်အင်္ဂါ၌ချို့ယွင်းသောသူ အကြောင်းကို ရေးသားရာ၌၎င်း ဝိသေသနပုဒ်^၁နှင့် ချို့ယွင်းသော ကိုယ်အင်္ဂါကို ဖော်ပြသောပုဒ်၌—

သီလေန ဥတ္တမော=အကျင့်သီလအားဖြင့် မြတ်သောသူ။
ဇာတိယာ ဥတ္တမော=အမျိုးဇာတ်အားဖြင့် မြတ်သောသူ။
အက္ခိနာ ကာဏော=မျက်စိဖြင့် ကန်းသောသူ။
ပါဒေန ခဉ္ဇော = ခြေထောက်အားဖြင့် ခွင်သောသူ။

စသည်ဖြင့် တတိယာဝိဘတ်ဖြင့်သာ ရေးရမည်၊ အခြားဝိဘတ်များဖြင့် မရေးရ၊ ဤသို့ စသည်ဖြင့် စကားဝါကျရေးသားပုံ ရေးသားနည်းမှန်ကန်အောင်, မသသပ်အောင် စည်းမျဉ်းဘောင် ခတ်၍လည်း စောင့်ရှောက်ထိန်းသိမ်း၏။

(၂) ထိုစကား ဝါကျထဲမှ ဝေါဟာရပုဒ် တပုဒ်စီတပုဒ်စီ၏ မူရင်းဇာစ်မြစ် (Etymology)နှင့် ဝိဘတ်ပစ္စည်းတို့၏ အနက်တို့ကို ဖော်ပြလျက် ယင်းပုဒ်တို့၏စာလုံးပေါင်း သတ်ပုံမှန်ကန်အောင် (အက္ခရဝိပတ္တိမဖြစ်အောင်)လည်း ထိန်းသိမ်းစောင့်ရှောက်၏၊ ဥပမာအားဖြင့်—

ဝေါဟာရပုဒ် နှစ်ပုဒ် သုံးပုဒ်စသည်တွဲစပ်ထားသော သမာသ်ပုဒ်တို့၌ တွဲစပ်သားသမျှပုဒ်တို့ကို အစိတ်အစိတ်ခွဲပြပြီးလျှင် ယင်း ပုဒ်တို့၌ ကျေသောဝိဘတ်တို့ကို ဖော်ပြ၏၊ တဒ္ဓိတ်ပုဒ်တို့၌ ပုဒ်နှင့်ပစ္စည်း ခွဲပြကာ (ရုပ်စီရင်ပြကာ) ပစ္စည်း၏အနက်ကို ဖော်ပြ၏၊ အာချာတ်ပုဒ် ကိတ်ပုဒ်တို့၌ ဓာတ်ပစ္စည်း ဝိဘတ်ခွဲခြားပြကာ (ရုပ်စီရင်ပြကာ) ပစ္စည်း ဝိဘတ်တို့၏ အနက်ကို ဖော်ပြ၏။

ဤသို့အားဖြင့် သဒ္ဒါကျမ်းသည် (၁) စကား ဝါကျအရေးအသား မှန်ကန်စေခြင်း၊ (၂) ထို စကားဝါကျမှ ဝေါဟာရပုဒ်တို့ အက္ခရဝိပတ္တိမဖြစ်အောင် စာလုံးပေါင်းသတ်ပုံ မှန်ကန်စေခြင်းအား ဖြင့် တာဝန်နှစ်မျိုးနှစ်စားယူလျက် စာပေကို ထိန်းသိမ်းစောင့်ရှောက်လေသည်။

အဘိဓာန်ကျမ်းက ဘာသာစာပေကို စောင့်ရှောက်ရာ၌ ထိုနှစ်မျိုးနှစ်စားတို့တွင် (၁) အမျိုး အစားဖြင့် စောင့်ရှောက်ရန်ဘာဝန်မယူနိုင်၊ (၂) အမျိုးအစားဖြင့် စောင့်ရှောက်ရန်သာတာဝန်ယူနိုင် ၏၊ သို့ရာတွင် (၂) အမျိုးအစားဖြင့် စောင့်ရှောက်ရာ၌ သဒ္ဒါကျမ်းထက် အဘိဓာန်ကျမ်းကပို၍ အမြောက်အမြား ကြီးမားသော တာဝန်ကို ထမ်းလျက်စောင့်ရှောက်၏။

ရှင်းပြဦးအံ့ —

သဒ္ဒါကျမ်းတို့အနေအားဖြင့် ရုပ်စီရင်၍ဖြစ်နိုင်သမျှ ဥဒါဟရဏ်ရုပ် ဝေါဟာရပုဒ်တို့ကို အားလုံး စုံလင်အောင် ရှာဖွေထုတ်နုတ်၍ ရုပ်စီရင်ပြဘို့မလိုတော့ပဲ နမူနာ ဥဒါဟရဏ်ရုပ် အနည်းငယ်မျှ ထုတ် ပြပြီးလျှင် ဤ ဥဒါဟရဏ်ရုပ်နှင့် အလားတူရုပ်များ၌လည်း ဤနည်းအတိုင်း ရုပ်စီရင်လေဟု ဆိုလိုက် ခြင်းဖြင့် ကိစ္စပြီး၏၊ တာဝန်ကျေပွန်၏။

ဥပမာအားဖြင့် — သုဘ်စဉ်ဘည်ဘုန်းက ပကာရ (အတူဟူသော) အနက်ရှိသော အာဒိ- သဒ္ဒါဖြင့်"ဿင္ဃာဒီနံ ဝါ"ဟု သုတ်တည်၍ ဃင္ဃဓာတ် တခုကိုသာထုတ်ပြပြီးလျှင် ဃင္ဃဓာတ်မှကျန်သော ဃင္ဃဓာတ်ကဲ့သို့ ဝုဒ္ဓိပြုမမြဲခြင်းတူသော ဂမုအာဒိရှိသော ဃင္ဃာဒိအာကဘိဂိုဏ်းဝင်ဓာတ်တို့ကို ကုံက်ရိုက်

၁။ ဝိသေသျပုဒ်နှင့် အနက်ဖြစ်ခြင်းမဘုံသော ဘိန္နာဓိကရဏဝိသေသနပုဒ်ကိုသာ ဆိုလိုသည်။

ထုတ်ပြဖို့မလိုတော့ပဲ အာဒိသဒ္ဒါဖြင့် သိမ်းယူလိုက်လျှင် တာဝန်ကျေ၏။ ပိသောဒရာဒီနိ ယတောပဒိဋ္ဌံ (ပါဏိနီ၊၆။၃။၁၀၉)ဟု သုတ်တည်၍ ပိသောဒရ ပုဒ်တပုဒ်ကိုသာထုတ်ပြပြီးလျှင် ပိသောဒရပုဒ်ကဲ့သို့ ရုပ်ပြီး ပုံချင်းတူသော ဘဂဝါအစရှိသော ကျန်သောပိသောဒရာဒိ အာကတိဂိုဏ်းဝင်ပုဒ်တို့ကိုလည်း တိုက်ရိုက်ထုတ်မပြတော့ပဲ အာဒိသဒ္ဒါဖြင့် သိမ်းယူနိုင်၏၊ သို့သော် အဘိဓာန်ကျမ်းများအနေဖြင့် ကား ဝေါဟာရစကားလုံးတို့ကို စုံနိုင်သမျှစုံအောင် ရနိုင်သလောက် ရှာဖွေထုတ်စုပြမှသာ တာဝန်ကျေမည်ဖြစ်ရကား အဘိဓာန်ကျမ်းတို့၏ တာဝန်သည် အလွန်ကြီးမား များပြားလှပေ၏။

## ပြည့်စုံနိုင်ခဲသော ပါဠိအဘိဓာန်

အိန္ဒိယနိုင်ငံ၌ သက္ကတဘာသာဖြင့် ရေးသားထားသော စာပေများ ဝေဒကျမ်းများကို ထိန်းသိမ်းစောင့်ရှောက်ဖို့ရာ ဗျာကရုဏ်းကျမ်းဟုခေါ်သော သက္ကတသဒ္ဒါကျမ်းများနှင့် နိသဏ္ဍုဟုခေါ်သော သက္ကတအဘိဓာန်ကျမ်းများသည် မြတ်စွာဘုရားမပွင့်မီ နှစ်ပေါင်း များစွာကပင် ပေါ်ထွက်ခဲ့ပြီးဖြစ်၏၊ ထို့ကြောင့် သက္ကတသဒ္ဒါကျမ်းနှင့် သက္ကတအဘိဓာန်ကျမ်းတို့သည် ကမ္ဘာ့သဒ္ဒါကျမ်း အဘိဓာန်ကျမ်းတို့၏ ရှေ့ဆောင် ရှေ့သွား ဆရာသွားဟုခေါ် ဆိုထိုက်လှပေ၏၊ အထူးအားဖြင့် သက္ကတစာပေနှင့် ပါဠိစာပေတို့သည် တခုမှတခုသို့ အက္ခရာပုဒ် ရုပ်သွင်ပြောင်းလဲဖလှယ်ထားသော ဝေါဟာရများစွာတို့ဖြင့် အချင်းချင်းအပြန်ပြန်အလှန်လှန် ဆက်သွယ်နေသောကြောင့် ထိုသက္ကတသဒ္ဒါကျမ်း အဘိဓာန်ကျမ်းတို့သည် ပါဠိသဒ္ဒါကျမ်း အဘိဓာန်ကျမ်းတို့၏ ရှေ့ဆောင်လမ်းပြ ဖြစ်ရုံမျှမက ဆွေမျိုးသားချင်းပင် တော်စပ်နေပေ၏။

ထိုပါဠိနှင့် သက္ကတဆိုင်ရာ သဒ္ဒါကျမ်း အဘိဓာန်ကျမ်းတို့တွင် အဘိဓာန်ကျမ်းသည် ဝေါဟာရစကားလုံးတို့၏ လိင်နှင့် မူရင်း ဇာစ်မြစ်ကိုပါ ညွှန်ပြထားခြင်းကြောင့် သဒ္ဒါကျမ်းတို့က ထမ်းဆောင်ရမည့်တာဝန်ကိုပါ အမြောက်အမြားခွဲဝေထမ်းဆောင်၏၊ ယခင်က ပြဆိုခဲ့သည့်အတိုင်း သုတ်ဘည်စဉ်က အာဒိသဒ္ဒါကိုထည့်၍ တည်ပြီးလျှင် ကျန်သောရုပ်များ၌လည်း ဤနည်းချည်းဟု ဆိုလိုက်ခြင်းဖြင့် သဒ္ဒါကျမ်းဘို့ သွားရမည့် တာဝန်ခရီးသည် ပြီ စီးရပ်နားသွားတော့၏၊ အဘိဓာန်ကျမ်းများကား ထိုမျှဖြင့်ခရီး မရပ်နား၊ တသွားတည်း သွားနေရ၏။ Living Language. ဟု ခေါ်သော ယခုလက်ရှိ သုံးစွဲနေဆဲဖြစ်သော ဘာသာစကားများသည် အမြဲတစေ အသစ်အသစ်တို့ ပွါးနေ၏၊ ပြောင်းလဲနေ၏၊ ထို့ကြောင့် ထိုဘာသာ စကားများအတွက် ဝေါဟာရစကားအားလုံး စုံလင်သော အဘိဓာန် ပေါ်ထွက်ရန် အလွန်ခက်၏။ ပါဠိဘာသာနှင့် သက္ကတဘာသာတို့သည် ယခုလက်ရှိ သုံးစွဲမှုမရှိသော် ဘာသာစကား (Dead Language) ဖြစ်သောကြောင့် နောက်ထပ် အသစ်တိုးပွါးခြင်း ပြောင်းလဲခြင်း မရှိစေကာမူ ထိုဘာသာစကားတို့ဖြင့် ရေးသားသော ကျမ်းဂန်ပေါင်း မြောက်မြားစွာရှိနေသောကြောင့် ဝေါဟာရ စကားအားလုံး စုံလင်သော သက္ကတအဘိဓာန်, ပါဠိအဘိဓာန် ပေါ်ထွက်ရန် အလွန်ခက်ခဲသည်ပင်ဖြစ်၏။ သို့သော် သက္ကတအဘိဓာန်ကျမ်းများသည် ခေတ်အားလျော်စွာ ပို၍ပို၍ စုံလင်စွာ တကျမ်းပြီးတကျမ်း ဆင့်ကဲဆင့်ကဲ ပေါ်ထွက်လာသောကြောင့် သက္ကတဝေါဟာရ ပုဒ်အားလုံး မပါဝင်သေးစေကာမူ ဆာမောနီယာဝီလျံ စသော သက္ကတအင်္ဂလိပ် အဘိဓာန်ကြီးများ၌ ခက်ခဲသော သက္ကတဝေါဟာရများ စုံလင်သင့်သလောက် စုံလင်ပြီဟုဆိုနိုင်လောက်ရာ၏။

ပါဠိဘာသာအတွက်လည်း တိပိဋကပါဠိ မြန်မာအဘိဓာန်အတွဲ ၁-နိဒါန်း၌ ဖော်ပြထားသည့်အတိုင်း ပုဒ်ပေါင်း ငါးသောင်းကျော်အထိ ပါဝင်သော ကမ္ဘာ့ခေတ်မှီ ဦးဟုဘ်စိန် အဘိဓာန်တိုင်

အောင် ပါဠိ-မြန်မာ အဘိဓာန်များ ဆင့်ကဲဆင့်ကဲ ပေါ်ထွက်လာခဲ့၏။ ဒုတိယ ကမ္ဘာစစ်ပြီးသည့်နောက်ပိုင်းတွင်လည်း သီဟိုဠ်ကျွန်းမှ အလားတူ ပါဠိအဘိဓာန်များ ပေါ်ထွက်လာခဲ့၏။ အနောက်နိုင်ငံများမှလည်း ခရစ် ၁၈၅၈-ခုနှစ်ဝယ် ရုရှနိုင်ငံ စိန့်ပီတာစဘတ်မြို့ (ယခု လီနင်ဂရက်မြို့)မှ ရုရှ ပါဠိပါမောက္ခများ ဦးစီးရေးခဲ့ကြသော (ပြီးဆုံးခြင်းသို့ မရောက်ခဲ့သော) ပါဠိရုရှအဘိဓာန်ကြီးနှင့် ယင်း၏ နောက်တွင် အင်္ဂလန်မှ ပါဠိအင်္ဂလိပ် အဘိဓာန်များ အပြင် နောက်ဆုံးတွင် ကမ္ဘာအရပ်ရပ်မှ ပညာရှိများ စုပေါင်းရေးသားပြီး ဒိန်းမတ်နိုင်ငံမှ ထုတ်ဝေသည့် A Criti al Pāli Dictionary(C-P-D) ဟု ခေါ်သည့် ပါဠိအင်္ဂလိပ်အဘိဓာန်တိုင်အောင် ပါဠိအဘိဓာန်ပေါင်း မြောက်မြားစွာ ပေါ်ထွက်လာခဲ့ပေ၏။

သို့သော် ထိုပါဠိအဘိဓာန်တို့၌ အခက်အခဲနှစ်မျိုးနှင့် ရင်ဆိုင်နေရ၏။ ယင်းနှစ်မျိုးမှာ – (၁) ပုဂ္ဂိုလ်တဦးတည်းက ရေးသားပြုစု၍ ပြီးဆုံးခြင်းသို့ ရောက်စေကာမူ ပါဠိ အဋ္ဌကထာ ဋီကာတို့မှ ခက်ခဲသော ပုဒ်အားလုံးနှင့် ပါဝင်သင့်သမျှ ပုဒ်အားလုံး အစုံအလင်ပါရှိသော ပါဠိအဘိဓာန်ကြီးဖြစ်ဖို့ခဲယဉ်း၏။ (၂) ပညာရှိအများ စုပေါင်းရေးသားကြသောကြောင့် ထိုပုဒ်များအားလုံး အစုံအလင်ပါဝင်အောင် ရှာဖွေစုဆောင်းနိုင်ကြစေကာမူ လုံးဝဥဿုံ ဆုံးခန်းတိုင်ရောက် ပြီးမြောက်သော အဘိဓာန်ကြီးဖြစ်ရန် ခက်ခဲပြန်၏။

ယခင် ဒိန်းမတ်နိုင်ငံထုတ် (C-P-D)အဘိဓာန်ကြီးသည် အလွန်ကောင်းမွန်သည့် စနစ်သစ်ဖြင့် ပါဠိတော်နှင့် အဋ္ဌကထာပုဒ်များ စုံလင်အောင် ရှာဖွေသုတ်စု၍ (၁၉၂၄)ခုနှစ်မှ စ၍ ရေးသားပြုစုလာခဲ့ကြရာ ယခုအခါ (၁၉၇၁)ခုနှစ်အထိ ရိုက်နှိပ်ပြီးစီးခဲ့သမျှမှာ ဥဒ္ဓါဠှိမပုဒ်အထိ ပါဝင်သောအတွဲ (၂) အပိုင်း (၇) အထိဖြစ်၏။ ကျန်သောသရများနှင့် ဗျည်းအားလုံးဟို့အတွက် များစွာ ကျန်ရှိနေသေးသော လုပ်ငန်းများကိုလည်း ဆုံးခန်းတိုင်ရောက် ပြီးမြောက်သည်အထိ ဆောင်ရွက်နိုင်လိမ့်မည်ဟု ယူဆပါ၏။ ထိုမျှလောက်စုံလင်သော ပါဠိအဘိဓာန်ကြီး ဆုံးခန်းတိုင်ရောက် ပြီးမြောက်ပါမူကား အလွန်အားကိုးအားထားပြုရ၍ ပါဠိဘာသာအတွက် တန်ဖိုးမဖြတ်နိုင်သော ကျမ်းကြီးဖြစ်လာပေလိမ့်မည်။ သို့သော် ထိုအဘိဓာန်ကြီးသည် ပါဠိကို အင်္ဂလိပ်လိုပြန်ဆို၍ အင်္ဂလိပ်မူ ပါဠိတော် အဋ္ဌကထာ ဋီကာ ကျမ်းစာအုပ်များမှ စာမျက်နှာဂဏန်းများကို ညွှန်ပြထားသောကြောင့်၎င်း, နိုင်ငံခြားမှ စာအုပ်ဖြစ်သဖြင့် မြန်မာနိုင်ငံ အနှံ့အပြားရောက်ရှိရန် ခဲယဉ်းသောကြောင့်၎င်း ပြည့်စုံသော ပါဠိမြန်မာအဘိဓာန်ကို လိုလားဘောင့်တနေကြသော မြန်မာနိုင်ငံသား ရဟန်းရှင်လူများ၏ လိုအင်ဆန္ဒကို ပြည့်စေနိုင်လိမ့်မည် မဟုတ်ပေ။

## အဘိဓာန် ကွန်ပြူတာစက်ကြီး

ပိဋကသုံးဖြာ ပါဠိတော် အဋ္ဌကထာ ဋီကာ အရပ်ရပ်တို့၌ နှံ့စပ်ကျွမ်းကျင်သော ပညာရှင်ပင်ဖြစ်စေကာမူ "ဒီအကြောင်းအရာကို ငါတွေ့ဘူး မှတ်ဘူးသည်၊ ဘယ်ပါဠိ, အဋ္ဌကထာ, ဋီကာမှာပါလေသနည်း"ဟု သေချာအောင် ပြန်၍ကြည့်လိုသောအခါ "ဟိုနေရာမှာ ပါလေသလော၊ ဒီနေရာမှာ ပါလေသလော"ဟု တွေးတောစဉ်းစား နေရသေး၏။ အချိန်ကုန်ခံကာ ရှာဖွေနေရသေး၏၊ ပုဒ်တပုဒ် တပုဒ်ပါရှိရာ ကျမ်းစာအခန်းကဏ္ဍကို သိလိုသောအခါ၌မူ ထိုထက်ပင် ပို၍ အသေးစိတ်စဉ်းစားရ၏။ အချိန်ကုန်ခံကာ ရှာဖွေနေရ၏၊ မိမိတွေ့လိုသော ပုဒ်ပါရှိရာ ဌာနသည် (၁၀)နေရာလောက် ရှိနေသော်လည်း ရှာဖွေသောအခါ (၁၀)နေရာလုံး တွေ့ချင်မှတွေ့မည်။ အဋ္ဌကထာ ဋီကာများသည် ဟိုနေရာမှာလည်း ဖွင့်၏၊ ဒီနေရာမှာလည်း ဖွင့်၏၊ ဒီနေရာမှာ အကျဉ်းချုပ်မျှသာ ဖွင့်၏၊ ဟိုနေရာမှာကား

အကြောင်းအားလျော်စွာ အကျယ်တဝင့်ဖွင့်၏၊ တခါတရံ၌မူ ဖွင့်ပုံချင်းလည်းမတူဘတ်၊ ဖွင့်ပုံချင်း စာသွားချင်း တူစေကာမူ(နှစ်ပေါင်းထောင်ချီ၍ ကြာမြင့်လာသော ကျမ်းစာမျာ းဖြစ်သောကြောင့်) ဟိုနေရာက အဖွင့်၌ ပါဠိများ ပျက်နေ၏၊သို့မဟုတ် ပါဠိမျာ း ကျပျောက်နေ၏၊ စာနေလည်း မသန့်ရှင်း၊ ဒီနေရာက အဖွင့်၌ ပါဠိမှန်၏၊ အကျအပျောက်မရှိ၊ စာမူသန့်ရှင်း၏။

အကယ်၍ ဖွင့်သမျှ နေရာဌာနအားလုံးကို တိုက်ဆိုင်၍ နှိုင်းယှဉ်၍ မကြည့်ရပဲ အကြောင်း အရာတခုခုကို ဟောပြောလျှင်သော်၎င်း, ရေးသားလျှင်သော်၎င်း မိမိ၏ဟောပြောချက်, ရေးသား ချက်များ၌ ပျော့ကွက်ဟာကွက် လွဲမှားချက်များဖြင့် အားနည်းလျက် ရှိနေမည်ဖြစ်သောကြောင့် မရှုံမကြောက် ခြင်္သေ့ဟောက်သကဲ့သို့ 'ဒီဟာသာအမှန်၊ ဒီဟာအမှား" ဟု ပြတ်ပြတ်သားသား ရဲရဲ ရင့်ရင့် သီဟနာဒ ဝိနိစ္ဆယချပြရန် ခက်ခဲလှပေ၏၊ ထို့ကြောင့် မိမိဟောပြောချက် ရေးသားချက် များ အင်အားပြည့်ဝ တိကျမှန်ကန်မှုအတွက် အဖက်ဖက်မှ အကူအညီပေးမည့် အဘိဓာန်ကြီးပေါ် ထွက်လာရန် အမြန်လိုအပ်လျက်ရှိပေ၏။

သိပ္ပံပညာများ ထွန်းကား တိုးတက်နေသော ယခုခေတ်၌ လူပေါင်း မြောက်မြားစွာတို့ အချိန်ကြာမြင့်စွာ လုပ်ဆောင်ရသော လုပ်ငန်းအမြောက်အမြားကို ဘခဏချင်း စက္ကန့်ပိုင်းအတွင်း၌ အားလုံးပြီးစီးအောင် လုပ်ဆောင်နိုင်သည့် ကွန်ပြူတာစက် ပေါ်ထွက်နေပြီဖြစ်သကဲ့သို့ ထို့အတူ အကြင်အဘိဓာန်ကျမ်းစာအုပ်ကို လှန်လှော၍ကြည့်လိုက်သောအခါ မိမိတွေ့လိုသော ဝေါဟာရပုဒ် အားလုံးကို ချက်ချင်းတွေ့နိုင်၏၊ ထိုပုဒ်နှင့်ဆိုင်ရာဆိုင်ရာ သိလိုသောအချက်များကိုလည်း ချက်ချင်း သိနိုင်၏၊ ထိုမျှဖြင့်အားမရသေး၍ သက်ဆိုင်ရာ ပါဠိအဋ္ဌကထာ ဋီကာတို့ကို ပြည့်စုံစွာ ကြည့်လိုပါ သေးသည်ဆိုလျှင်လည်း ထိုပုဒ်မှ ကျမ်းညွှန်းဂဏန်းများကို ကြည့်၍ ရှာဖွေလိုက်သောအခါ ထို ကျမ်းစာများမှ မိမိသိလိုသော အကြောင်းအရာများ ဘွားကနဲချက်ချင်းတွေ့ရ၏၊ ယခင်က အချိန် ကြာမြင့်စွာ ရှာဖွေ၍သော်မှပင် တွေ့ရှိရန်ခဲယဉ်းသော အကြောင်းအရာ မြောက်မြားစွာတို့သည် ကွန်ပြူတာစက်ကို နှိပ်လိုက်သကဲ့သို့ မိမိ၏ရှေ့မှောက်၌ ချက်ချင်းရောက်လာ၏၊ ပြည့်စုံမှု သေချာမှု ခိုင်လုံမှုလည်း ရှိ၏၊ အကြောင်းအရာတခုခုကို ဟောပြောလိုသူ, ကျမ်းစာရေးသား ပြုစုလိုသူတို့အတွက် တိုတောင်းသော အချိန်ကာလအတွင်း တမှုဟုတ်ချင်း အကူအညီပေးစွမ်းနိုင်သော ထိုသို့သော ပါဠိမြန်မာ အဘိဓာန်ကျမ်းတည်းဟူသော ကွန်ပြူတာစက်ကြီး ပေါ်ထွက်လာရန် အမြန်လိုအပ်လျက် ရှိနေပေ၏။

## တိပိဋကပါဠိ-မြန်မာ အဘိဓာန်ကျမ်းကြီး

အထက်က ဖော်ပြခဲ့သော အကြောင်းများကြောင့် ပါဠိအဋ္ဌကထာ ဋီကာပိဋကကျမ်းဂန် များနှင့် ထိုပိဋကကျမ်းဂန်တို့၏ အခြံအရံပါဠိကျမ်းဂန်တို့မှ ပါဝင်သင့်သမျှ ပါဠိဝေါဟာရအားလုံး စုံလင်စွာပါဝင်ပြီးလျှင် ထိုဝေါဟာရများနှင့်စပ်၍ ရေးသင့်သမျှ ဖော်ပြသင့်သမျှ အချက်အလက်များ ကိုပါ စုံလင်စွာ ရေးသားဖော်ပြထားသည့် အတွဲပေါင်းမြောက်မြားစွာပါရှိသော ပါဠိမြန်မာအဘိ- ဓာန်ကြီး ပေါ်ထွက်လာပါက ယင်းအဘိဓာန်ကြီးသည် အဖက်ဖက်မှ လိုလေသေးမရှိ ပြည့်စုံနေရ ကား အကိုင်းအခက်ဝေဆာသည့် ပါဠိပဒေသာပင်ကြီးအဖြစ်ဖြင့် အများသူငါ၏ မျက်နှာပြင်တွင် ရှေ့သုံးမှ ပေါ်လွင်ထင်ရှားနေမည်မှာ သေချာလှပေ၏၊ သို့သော် "ခါချဉ်ကောင် မာန်ကြီး၍ တောင် ကြီးကိုဖြိုမည့်ကြံ ခါးကမသန်" ဟူသကဲ့သို့ သာမန်ငွေကြေးရှင်တို့၏ အကူအညီနှင့် တဦးစ နှစ်ဦးစ ပညာရှင်တို့၏ ကြိုးပမ်းချက်တို့မှာ "မြေကြီးလက်ခတ်မလွဲ သေချာပေါက် ပြီးမြောက်စေရမည်" ဟု

မည့်မျှလောက်ပင် စိတ်မာန်ကြီးမား ကြုံးဝါးနေစေကာမူ တောင်လုံးကြီးတမျှ ရှေမကြီးမားလှသော အဘိဓာန်ကျမ်းပြုအလုပ် ဝန်ထုပ်ကြီးနှင့် ချိန်ခွဲသေးငယ်လှသော ရှေးခါကလေ တို့၏ အချိုးအစားကွာဟ မညီမမျှဖြစ်နေခြင်းကြောင့် လမ်းဆုံးအောင် မထမ်းဆောင်နိုင်တော့ပဲ တပိုင်းတစဖြင့် လက်စသတ်ရဖို့သာ ရှိတော့၏၊ ထို့ကြောင့် တိပိဋကပါဠိမြန်မာအဘိဓာန်တည်းဟူသော ရှေမကျမ်းကြီး ပေါ်ထွက်ဖို့ကိစ္စမှာ အပြောလွယ်ပြီး အကောင်အထည်ပေါ်ဖို့ ခက်လှချေ၏။

ထို့ကြောင့် မြန်မာနိုင်ငံတော်အစိုးရသည် ထိုကဲ့သို့ ဖြစ်မြောက်နိုင်ခဲသော တိပိဋကပါဠိမြန်မာ အဘိဓာန်ကျမ်းကြီး အောင်မြင်စွာပေါ်ထွက်လာစေရန် ရည်သန်ချက်ဖြင့် ဆဋ္ဌသင်္ဂါယနာစီမံကိန်း ပိဋကတ်တော် မြန်မာပြန် စီမံကိန်းတို့နှင့်အတူ တပါတည်းပင် ပါဠိမြန်မာ အဘိဓာန်ကျမ်းကြီး ရေးသားရန် စီမံကိန်းကိုလည်း ရေးဆွဲခဲ့၏။ ထို့နောက် အဘိဓာန်ဌာနဟူ၍ ဝန်ထမ်းဌာနတခု ဖွဲ့စည်း၍ လူအင်အား ငွေအင်အား နှစ်ရပ်လုံး လုံလောက်စွာသုံးကာ အဘိဓာန်လုပ်ငန်းကို ဆောင်ရွက်ခဲ့၏။

## ရှေ့တော်ပြေး အဘိဓာန်လုပ်ငန်း

ပဌမတွင် အလျား လေးလက်မ, အနံသုံးလက်မရှိသော ကတ်ပြားစက္ကူကလေး တရွက်တရွက်လျှင် ပါဠိဝေါဟာရ တပုဒ်စီ တပုဒ်စီ ရေးခြင်းဖြင့် ပါဠိဝေါဟာရပုဒ် ထုတ်ရ စုရ၏၊ ပါဠိတော်ကျမ်းစာအုပ်ရေ(၄၀), အဋ္ဌကထာကျမ်းစာအုပ် (၅၁), ဋီကာကျမ်းစာအုပ် (၂၆) အုပ်အားဖြင့် ပါဠိကျမ်းစာအုပ်ပေါင်း(၁၁၇)အုပ်တို့၌ ရှိသမျှပါဠိဝေါဟာရပုဒ် အားလုံးတို့ကို ထုတ်နုတ်ရေးသားစုဆောင်းခြင်း (ပုဒ်ထုတ်ရခြင်း) ဖြစ်သည်၊ ယင်းကဲ့သို့သုတ်နုတ်စုဆောင်းလိုက်သောအခါ ပါဠိဝေါဟာရတပုဒ်စီ တပုဒ်စီ ရေးထားသော ကတ်ပြားစက္ကူပေါင်း တဆယ့်ငါးသိန်းကျော် ရရှိ၏၊ ထိုကတ်ပြားစက္ကူတို့ကို ပုဒ်ချင်းတူရာပေါင်းလိုက်သောအခါ အသားတင်ပုဒ်အရေအတွက် သုံးသိန်းကျော်ရရှိ၏။

ဤနေရာ၌ ဝေါဟာရပုဒ် ထုတ်နုတ်စုဆောင်းပုံနှင့် ထိုစုဆောင်းထားသော ကတ်ပြားစက္ကူမြောက်မြားစွာတို့ကို ပုဒ်ချင်းတူရာပေါင်းလိုက်ခြင်းဖြင့် အသားတင်ပုဒ်အရေအတွက်လျော့နည်းသွားပုံတို့ကို အနည်းငယ်မျှထပ်မံရှင်းပြပါဦးမည်။

ပါရာဇိကဏ်ပါဠိတော်ဖြစ်သော ဝိနည်းပါဠိတော် ပဌမတွဲမှ ပါဠိဝေါဟာရပုဒ်ထုတ်စုသောပုဂ္ဂိုလ်သည် ယင်းပါဠိတော်၌ရှိသမျှ ပုဒ်ဘိုင်း ပုဒ်တိုင်းကို စက္ကူကတ်ပြား တခုတခုလျှင် တပုဒ်စီတပုဒ်စီ(စာမျက်နှာ နံပါတ် ဂဏန်းနှင့်တကွ) ရေးရ၏၊ ဥပမာအားဖြင့်—

ထိုဝိနည်းပါဠိတော် ပဌမတွဲ (ဝိ၊၁) စာမျက်နှာ (၅)၌ ဗုဒ္ဓေါပုဒ်တွေ့လျှင် (ဗုဒ္ဓေါ။ ဝိ၊၁။၅)ဟူ၍ စက္ကူကတ်ပြားပေါ်၌ ရေးရ၏၊ စာမျက်နှာ(၇)၌ ဗုဒ္ဓေါပုဒ်တွေ့လျှင်လည်း (ဗုဒ္ဓေါ။ ဝိ၊၁။၇) ဟု ရေးရ၏။

ပါစိတ် ပါဠိတော်ဖြစ်သော ဝိနည်းပါဠိတော် ဒုတိယတွဲ (ဝိ၊၂) မှ ပုဒ်ထုတ်သောသူကလည်း ယင်းပါဠိတော် စာမျက်နှာ (၈)၌ ဗုဒ္ဓေါပုဒ်တွေ့လျှင် (ဗုဒ္ဓေါ။ ဝိ၊၂။၈) ဟုရင်း, စာမျက်နှာ (၁၀)၌ ဗုဒ္ဓေါပုဒ်တွေ့လျှင်လည်း (ဗုဒ္ဓေါ။ ဝိ၊၂။၁၀) ဟုရင်း စက္ကူကတ်ပြား၌ ရေးရ၏၊ မဟာဝ ပါဠိတော် ဖြစ်သော ဝိနည်းပါဠိတော်တတိယတွဲ (ဝိ၊၃) စာမျက်နှာ(၅)၌ ဗုဒ္ဓေါပုဒ်တွေ့လျှင်လည်း (ဗုဒ္ဓေါ။ ဝိ၊၃။၅) ဟုရင်း, စာမျက်နှာ(၈)၌ ဗုဒ္ဓေါပုဒ်တွေ့လျှင်လည်း (ဗုဒ္ဓေါ။ ဝိ၊၃။၈) ဟု ရင်းရေးရ၏။

သီလက္ခန်ပါဠိတော်ဖြစ်သော ဒီဃနိကာယ်ပဋ္ဌမတွဲ (ဒီ၊၁)မှ ပုဒ်ထုတ်သောသူသည် ထိုပါဠိတော် စာမျက်နှာ(၁၂)၌ ဗုဒ္ဓေါပုဒ်တွေ့လျှင်လည်း (ဗုဒ္ဓေါ။ ဒီ၊၁။၁၂) ဟုရင်း, စာမျက်နှာ (၁၅) ၌ ဗုဒ္ဓေါ ပုဒ် တွေ့ လျှင်လည်း (ဗုဒ္ဓေါ။ ဒီ၊၁။၁၅) ဟုရင်း စက္ကူကတ်ပြား၌ ရေးရ၏၊ (ဝိဘတ်ကို မဖျောက်ပဲ စာအုပ်ထဲ၌ရှိသည့်အတိုင်း "ဗုဒ္ဓေါ၊ ဗုဒ္ဓါ၊ ဗုဒ္ဓံ၊ ဗုဒ္ဓေ၊ ဗုဒ္ဓဿ" စသည်ဖြင့် စက္ကူကတ်ပြား၌ ရေးရ၏)

ဤသို့အားဖြင့် ဗုဒ္ဓေါတပုဒ်တည်းအတွက် စက္ကူကတ်ပြားပေါင်း ရှစ်ခုဖြစ်၏၊သို့သော် ဗုဒ္ဓေါပုဒ်ချင်း တူသောကြောင့် တူရာပေါင်း၍ အက္ခရာစဉ်အတိုင်း အသားတင်ပုဒ်ရေးသောအခါ (ဗုဒ္ဓေါ။ ဝိ၊ ၁။ ၅၊၇။ ဝိ၊၂။ ၉၊၁၀။ ဝိ၊၃။ ၅၊၈။ ဒီ၊၁။၁၂၊၁၅။) ဟူ၍ တပုဒ်ဘည်းသာကျန်တော့၏၊ ထို့ကြောင့် ဗုဒ္ဓေါအတွက် စက္ကူကတ်ပြား ရှစ်ခု, အသားတင်ပုဒ်တခုဖြစ်သည်၊ ဤနည်းအားဖြင့် စက္ကူကတ်ပြား အရေအတွက်က များပြားလှ၍ အသားတင်ပုဒ်အရေအတွက်က အလွန်လျော့နည်းသွားသည်၊ အတွေ့ များလွန်း၍ သိပ်ထူးခြားတော့မည်မဟုတ်သော "ဟောတိ" ကဲ့သို့သောပုဒ်များ၌ကား (တွေ့သမျှပုဒ် အားလုံး စက္ကူကတ်ပြား၌ ရေးရမည်ဟူသော စည်းကမ်းရှိသော်လည်း)မရေးပဲချန်ထားလိုသောပုဂ္ဂိုလ် တို့က ချန်ထားခဲ့ကြ၏၊ထို့ကြောင့် စာအုပ်ထဲ၌ဟောတိပုဒ်အရေအတွက်များသလောက် စက္ကူကတ်ပြား အရေအတွက် များတော့မည်မဟုတ်ပေ။

ဤနေရာ၌ အသားတင်ပုဒ်အရေအတွက်နှင့် စက္ကူကတ်ပြားအရေအတွက် အသေးစိတ်စာရင်း ဇယားမှာ အောက်ပါအတိုင်း ဖြစ်၏။

| အက္ခရာ | အသား တင်ပုဒ်ပေါင်း | စက္ကူကတ်ပြားပေါင်း |
|---|---|---|
| သရ | ၆၃၉၅၁ | ၂၃၆၃၃၃ |
| က–ဝဂ် | ၃၆၂၉၀ | ၁၇၂၃၁၄ |
| စ–ဝဂ် | ၁၅၀၅၇ | ၇၇၂၆၁ |
| ဋ–ဝဂ် | ၈၁၁ | ၄၇၅၈ |
| တ–ဝဂ် | ၄၃၆၂၅ | ၂၂၄၃၈၆ |
| ပ–ဝဂ် | ၇၀၃၆၈ | ၃၇၃၇၈၈ |
| အ–ဝဂ် | ၇၇၇၇၃ | ၄၂၆၆၇၁ |
| စုစုပေါင်း = | ၃၁၀၆၇၂ | ၁၅၁၅၅၁၁ |

ဤအသေးစိတ်စာရင်းဇယားအရ အဘိဓာန်ရေးရန် အသားတင်ပုဒ်ပေါင်း သုံးသိန်းကျော်ရရှိ ထားသော်လည်း တကယ်အဘိဓာန်ရေးသားပြုစုကြသောအခါ၌ကား အကျိုးမများလှသော တချို့ပုဒ် တို့ကို ချန်ပစ်ထားခဲ့ရသေး၏၊ ထို့ကြောင့် အဘိဓာန်စာအုပ်အားလုံး ရိုက်နှိပ်ပြီးစီးသောအခါ ထိုစာရင်း ဇယားအတိုင်း ပုဒ် သုံးသိန်းကျော် (၃၀၈၆၇၅) ရှိတော့မည်မဟုတ်ပေ။

ဖော်ပြခဲ့သည့်အတိုင်း စက္ကူကတ်ပြားကလေးများ၌ အဘိဓာန်ဝေါဟာရပုဒ်ရေးသား ထုတ်စုပြီး သောအခါ အသရ၏ ဝေါဟာရစက္ကူကတ်ပြားတို့ကို တပုံပုံ၍ရင်း, အာသရ၏ ဝေါဟာရပုဒ် စက္ကူ ကတ်ပြားတို့ကို တပုံ ပုံ၍ရင်း, ဣသရ၏ ဝေါဟာရပုဒ် စက္ကူကတ်ပြားတို့ကို တပုံ ပုံ၍ရင်း ဤသို့ စသည်ဖြင့် အက္ခရာချင်း ခွဲခြား၍ အက္ခရာအမျိုးအစားတူသည့် ဝေါဟာရပုဒ် စက္ကူကတ်ပြားတို့ကို

တပုံစီ တပုံစီ ပုံထပ်ထားရ၏၊ ထိုနောက်မှ ယင်းစက္ကူကတ်ပြားများ၌ ရေးထားသော ဝေါဟာရပုဒ်တို့ကို ဆိုက်ရှေပလာစာရွက်၌ အက္ခရာစဉ်အတိုင်း ကူးယူရေးသား (အက္ခရာဝလိစဉ်သား) ရသည်၊ အဘိဓာန် ရေးသားပြုစုကြမည့် ပုဂ္ဂိုလ်တို့သည် ဆိုင်ရာဆိုင်ရာ ကျမ်းစာအုပ်၏ စာမျက်နှာဂဏန်းနှင့် ပူးတွဲလျက် အက္ခရာစဉ်၍ ရေးသားထားပြီးသော ထိုဝေါဟာရပုဒ်တို့ကို (ယင်းပုဒ်တို့၏ စာမျက်နှာဂဏန်းက ညွှန်ပြသော ကျမ်းစာအုပ်များကို ကြည့်၍) အဘိဓာန်ရေးသားပြုစုကြရမည် ဖြစ်သည်၊ ဤကဲ့သို့ အဘိဓာန်ဝေါဟာရပုဒ်တို့ကို အက္ခရာစဉ်အတိုင်း ရေးရခြင်း(အက္ခရာဝလိစဉ်ရခြင်း) တိုင်အောင် ပြုလုပ်ခဲ့သမျှ လုပ်ငန်းအားလုံးသည် ရှေ့တော်ပြေး အဘိဓာန်လုပ်ငန်းချည်းသာတည်း။

## အဘိဓာန်အဖွဲ့များ

လက်ဦးပဌမ စတင်ရေးသားစဉ်က ရန်ကုန်မြို့ သီရိမင်္ဂလာ ကမ္ဘာအေး ကုန်းမြေဝင်းအတွင်းရှိ ဇမ္ဗူဒီပကျောင်းဆောင်မှ ဆရာတော်များနှင့် လူပညာရှိပုဂ္ဂိုလ်အနည်းငယ်တို့က တာဝန်ယူ၍ (ဇမ္ဗူဒီပ အဘိဓာန်အဖွဲ့တဖွဲ့တည်းကသာ) ဤ အဘိဓာန်ကြီးကို ရေးသားပြုစုကြ၏၊ ထိုနောက် အဘိဓာန်အဖွဲ့ကို တိုးချဲ့ဖွဲ့စည်းလိုက်သောအခါ—

(၁) ဇမ္ဗူဒီပဆရာတော်များအဖွဲ့၊
(၂) မန္တလေးမြို့ မစိုးရိမ်တိုက် နာယကစာချအဖွဲ့၊
(၃) မန္တလေးမြို့ မဟာဝိသုဒ္ဓါရာမဂဏဝါစကအဖွဲ့၊
(၄) မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးအဖွဲ့၊
(၅) ပခုက္ကူမြို့ မဟာဝိသုတာရာမအဖွဲ့၊
(၆) သာသနာရေးဦးစီးဌာန ဇမ္ဗူဒီပအမှုထမ်းအဖွဲ့။

ဤသို့အားဖြင့် အဘိဓာန်အဖွဲ့ (၆)ဖွဲ့ ဖြစ်လာ၏၊ ထို အဖွဲ့ (၆)ဖွဲ့မှ တာဝန်ယူ၍ အဘိဓာန်ရေးသားပြုစုလာခဲ့ကြရာ ယခုအခါတွင် ၁၉၇၈-ခုနှစ်၊ ဇူလိုင်လအထိ ရိုက်နှိပ်ပြီးစီး ဖြန့်ချိနိုင်ခဲ့သော အဘိဓာန်အတွဲပေါင်း (၁၁)တွဲနှင့် ပါဠိပဒ-ပိဋက ကျမ်းညွှန်း အ—ဝဂ် အပိုင်း(၃)အထိ ရှပ်လုံးပေါ်လာခဲ့ပေပြီ။

## ဇမ္ဗူဒီပသရအဘိဓာန်များ

ဇမ္ဗူဒီပကျောင်းဆောင်မှ ဆရာတော်များသည် ၁၃၁၈-ခုနှစ်၊ နတ်တော်လ (၁၉၅၆ ခုနှစ် နိုဝင်ဘာလ)မှစ၍ သရအဘိဓာန်ကို တာဝန်ယူ၍ ရေးသားတော်မူကြ၏၊ ရှေ့သွားနမူနာ ရေးပြီး မရှိသေးသဖြင့် ပါဠိအင်္ဂလိပ် အဘိဓာန်ရေးနည်း ပုံစံကို အတုယူ၍ ကောင်းမည်ထင်သလို ရေးသားတော်မူကြ၏၊ နောက်တွေ့သော ရေးနည်းပုံစံက အရင်ပုံစံထက်ကောင်းလျှင် အရင်ရေးခဲ့ပြီး ပုံစံကို ဖျက်လိုက်ရ၏၊ အစည်းအဝေးထိုင်ပြီး တမျိုးပြင်၍ ရေးလိုက်ကြပြန်၏၊ ဤကဲ့သို့ အကောင်းဆုံးရေးနည်းပုံစံရသည်အထိ ရေးလိုက် ဖျက်လိုက်ဖြင့် အမျိုးမျိုး စမ်းသပ် ရေးသား ပြုစုလာခဲ့ကြရာ ၁၉၆၄-ခုဆောက်၍ ရှစ်နှစ်လောက်ကြာမှ သရအဘိဓာန် အတွဲ(၁) ထွက်ပေါ်လာနိုင်တော့၏၊ အတွဲ(၁)ထွက်ပြီးနောက်၌ကား ရှေ့ပြေးနမူနာ ပုံစံကောင်းကောင်း ရှိပြီးဖြစ်၍ အရှိန်အဟုန်ကောင်းစွာဖြင့် ရေးသားနိုင်ခဲ့ကြသောကြောင့် ၁၉၆၆-ခုနှစ်၊ ဇူလိုင်လတွင် အတွဲ(၂) ထွက်ပေါ်လာနိုင်ခဲ့ပေသည်။

ဤ ဇမ္ဗုဒီပသရအဘိဓာန်တာဝန်ကြီးကို အဖွဲ့ဝင်ဆရာတော် အချို့ထံမှ အဖွဲ့ဝင်ဆရာတော်အချို့ထံသို့ လက်ဆင့်ကမ်း ပခုံးပြောင်းကာ ထမ်းဆောင်ခဲ့ကြရ၏၊ သရအဘိဓာန်အတွဲ(၃) ရေးနေသည့်အတောအတွင်း၌ ဇမ္ဗုဒီပကျောင်းဆောင်၌ သီတင်းသုံးဝါကပ်တော်မူကြသော ဆရာတော်အချို့သည် မိမိတို့နေရပ်သို့ ပြန်ကြွသွားကာ အဘိဓာန်တာဝန်လုပ်ငန်းမှ အနားယူတော်မူကြ၏၊ ထို့ကြောင့် ဇမ္ဗုဒီပအဘိဓာန်ဝန်ဆောင်အဖွဲ့၌ ဆရာတော်အရေအတွက် နည်းပါးလာ၏၊ ထိုသို့ပင် နည်းပါးသော်လည်း သရအဘိဓာန်အတွဲ(၃)၌ ဖော်ပြထားသော ပုဂ္ဂိုလ်တို့ မနေမနား ကြိုးစားတော်မူကြခြင်းကြောင့် စာမျက်နှာ ၁၀၆၇ (စာဖောင် ၇၃-ဖောင်) ရှိသော ထိုသရအဘိဓာန် အတွဲ(၃)သည် ၁၉၇၁-ခုနှစ်၊ ဇူလိုင်လတွင် ထွက်ပေါ်လာနိုင်ခဲ့ပေသည်။ ၁၉၆၆-ခုနှစ်နှင့် ၁၉၇၈-ခုနှစ်များအတွင်း၌ အခြားသော မစိုးရိမ်အဖွဲ့ ဝိသုဒ္ဓါရုံအဖွဲ့ စသည်တို့မှလည်း ဆိုင်ရာဆိုင်ရာ အဘိဓာန်အတွဲများနှင့် ပါဠိပဒကျမ်းညွှန်းများလည်း ထွက်ပေါ်လာနိုင်ခဲ့၏။

အဘိဓာန်အတွဲ (၄)

အဘိဓာန်အတွဲ(၃) ပြီးစီးသည့်နောက်ပိုင်းတွင် သရအဘိဓာန် မဟာနာယက,အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ဦးဉာနုတ္တရ ပျံလွန်တော်မူပြီးလျှင် အချို့ဆရာတော်များလည်း အရပ်ဘပါးသို့ ထပ်မံပြောင်းရွှေ့ကြွသွားတော်မူကြပြန်၏၊ ထို့ကြောင့် အဘိဓာန်အတွဲ(၄)ကို ရေးသားပြုစုသည့် ပုဂ္ဂိုလ်အရေအတွက်မှာ ယခင်ကထက်ပင် ပို၍ နည်းပါးသွားလေတော့၏။ ဤအချိန်တွင် ယခင်အတွဲ(၃)၌ အဓိက ဝန်ဆောင်အဖြစ်ဖြင့် ပါဝင်ရေးသားခဲ့ကြသော အောက်ပါဆရာတော်နှစ်ပါး သည် ဤ အဘိဓာန်, အတွဲ(၄)ကို ဦးစီးခေါင်းဆောင်အဖြစ် တာဝန်ယူ၍ ရေးသားတော်မူကြ၏။

(၁) အရှင်ပညိဿရ, အစိုးရဓမ္မာစရိယ, သကျသီဟပရိယတ္တိသာသနဟိတ ဓမ္မာစရိယ အဘိဓမ္မပါဠိပါရဂူ, မဟာဂန္ဓာရုံတိုက် စာချဆရာတော်၊ အမရပူရမြို့၊ ဤဆရာတော်သည် ၁၃၂၉-ခုနှစ် ဝါဆိုလ (၁၉၆၇-ခုနှစ်၊ ဇူလိုင်လ)မှစ၍ ဗုဒ္ဓသာသနာအဖွဲ့၏ ပင့်လျှောက်ချက်အရ ရန်ကုန်မြို့ သီရိမင်္ဂလာ ကမ္ဘာအေးဇမ္ဗုဒီပကျောင်းဆောင်၌ အမြဲသီတင်းသုံးလျက် သရအဘိဓာန်တာဝန်ကို ထမ်းဆောင်တော်မူသည်။

(၂) အရှင်မာဃိန္ဒ, အစိုးရဓမ္မာစရိယ, သကျသီဟ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ, ပရိယတ္တိသဒ္ဓမ္မပါလ ဓမ္မာစရိယ, ဒီဃဘာဏက၊ ဖက်ပင်အိုင်ကျောင်းတိုက် စာချဆရာတော်၊ ဖက်ပင်အိုင်ရွာ မြင်းခြံမြို့။ ဤဆရာတော်သည် ၁၃၂၈-ခုနှစ် တန်ဆောင်မုန်းလ (၁၉၆၆-ခုနှစ်၊ နိုဝင်ဘာလ)မှစ၍ ဗုဒ္ဓသာသနာအဖွဲ့၏ပင့်လျှောက်ချက်အရ ကမ္ဘာအေးဇမ္ဗုဒီပကျောင်းဆောင်၌ အမြဲသီတင်းသုံးလျက် သရအဘိဓာန်တာဝန်ကို ထမ်းဆောင်တော်မူသည်။

ဤဆရာတော်နှစ်ပါးသည် အဘိဓာန်အတွဲ(၄)ကို ရေးသားပြုစုရာ၌ ယခင်စာပြုပုဂ္ဂိုလ်တို့ ရေးသားခဲ့ကြသော ပုဒ်များကို ထပ်မံဘည်းဖြတ်ပြင်ဆင်ခြင်း, ဖြည့်စွက်ရေးသားခြင်း ပြုလုပ်ကြ၏။ စာပြုပုဂ္ဂိုလ်တို့ မရေးသားရသေးသော ပုဒ်များစွာတို့ကိုလည်း မိမိတို့ကိုယ်တိုင် စတင်ရေးသားမှု ပြုကြ၏။ ပါဠိ ကျမ်းဂန်တို့၌ နောက်ထပ်တွေ့ရှိသော ပုဒ်သစ် အနက်သစ်တို့ကိုလည်း ထပ်မံဖြည့်စွက်ကြ၏၊ Pali Tipitākam Concordance အဘိဓာန်နှင့် ပါဠိအင်္ဂလိပ်အဘိဓာန်တို့၌ နောက်ထပ်တွေ့ရှိသော ပုဒ်သစ် အနက်သစ်တို့ကိုလည်း ထည့်စွက်တော်မူကြ၏။ အမရကောသ, ထောမနိမိစသော သက္ကတအဘိဓာန်, The Pāli Text Society's Pāli-English Dictionary (P.T.S)နှင့်

A Critical Pāli Dictionary စသော ပါဠိအင်္ဂလိပ်အဘိဓာန်, ဆာမောနီယာဝီလျံ စသော သက္ကတအင်္ဂလိပ် အဘိဓာန်တို့နှင့်၎င်း, သဒ္ဒါကျမ်းတို့နှင့်၎င်း ညှိနှိုင်းတိုက်ဆိုင်တော်မူကြ၏။ တပါးရေးပြီးစာမူနှင့် တပါးရေးပြီးစာမူဘိုကိုလည်း လဲလှယ်ကြည့်ရှုပြင်ဆင်တော်မူကြ၏၊ ထို့နောက် လက်နှိပ်စက်စာမူနှင့် ဂယ်လီပရု (Galley-proof) ဖောင်ကြမ်းပရုတို့ကို ပြင်ဆင်ခြင်း ကိစ္စတိုင်အောင် အစမှအဆုံး တအုပ်လုံး ပြီးဆုံးသည်အထိ စွမ်းအားရှိသမျှ ကြိုးစားရေးသားတော်မူကြ၏။

ထိုအဘိဓာန် အတွဲ(၄)စ၍ ရေးသားချိန်၌ သရဆိုင်ရာပုဒ်အားလုံး ကုန်ဆုံးသည်အထိ တအုပ်တည်းဖြင့် အပြီးသတ်နိုင်လိမ့်မည်ဟု ခန့်မှန်းခဲ့ကြ၏၊ ထို့ကြောင့် သိပ်လည်း ရှည်မျော မသွားအောင်, ပါသင့်သမျှ အကြောင်းအရာ အချက်အလက်အားလုံးလည်း ပါအောင် သတိထား၍ ရေးသားခဲ့ကြ၏။ ဥပမာအားဖြင့်–အာနန္တရိယကမ္မပုဒ်၌ မာတုဃာတကကံ (အမိကိုသတ်ကြောင်းဖြစ်သောကံ) စသော အာနန္တရိယကံငါးမျိုးနှင့်စပ်၍ ဝိ၊ဋ္ဌ၊၂။၄၃။အဘိ၊ဋ္ဌ၊၂။၄၀၇-တို့၌ ပြထားသော ဋ္ဌကစတုက္က စသည်တို့ကို အကျယ်တဝင့် ရေးသားလျှင် ဖြစ်နိုင်သော်လည်း သိပ်ရှည်မျော မသွားစေလိုသောကြောင့် ခေါင်းစဉ်သဘောလောက်မျှသာ ရေးသားခဲ့၏။

အာရမ္မဏပုဒ်၌လည်း ရေးပြသင့်သမျှ အာရုံအမျိုးအစားအားလုံး စုံရုံမျှသာ ခွဲခြားရေးခဲ့၏၊ မည်သည့်အာရုံကို မည်သည့်စိတ်စေတသိက်တို့က အာရုံပြုသည်ဟု အာရုံနှင့်အာရမ္မဏိကစိတ်စေတသိက်တို့ကို တွဲစပ်၍ ရေးသားခြင်း မပြုခဲ့။ ဥတ္တရကုရုပုဒ်၌လည်း မှတ်ဖွယ်ကောင်းသော မြောက်ကျွန်းအကြောင်းအရာတို့ကို အကျဉ်းချုပ်မျှသာ ရေးပြထားခဲ့ပြီးလျှင် အဋ္ဌကထာဋီကာတို့၌ ပြထားသော အကြောင်းအရာတော်တော်များများ ချန်ထားခဲ့ရ၏။ ဤသို့ စသည်ဖြင့် အတွဲ(၄) တအုပ်တည်းဖြင့် ပြီးစေလိုသောကြောင့် သတိထား၍ ကျစ်လစ်သိပ်သည်းစွာ ရေးသားခဲ့ပေ၏။ သို့သော် ထိုသို့သတိထား၍ ရေးသားရင်း ရေးသားရင်းပင် ရှေ့သို့ လှမ်းမျှော်ချိကြည့်လိုက်သောအခါ ယခင်ခန့်မှန်းချက်အတိုင်း တအုပ်တည်းဖြင့် မပြီးနိုင်ကြောင်း သိမြင်လာကြ၏။ ထို့ကြောင့် အတွဲ (၄) တအုပ်တည်းပြုလုပ်လိုက်ခြင်းဖြင့် ယခင် အဘိဓာန်အတွဲများထက် အလွန်ထူးခြားစွာ ကြီးမားသော စာအုပ်ကြီးဖြစ်မသွားစေခြင်းငှါ ဖြတ်သင့်ရပ်သင့်သော နေရာအရောက်တွင် အတွဲ(၄) အပိုင်း(၁)ဟု ဖြတ်လိုက်ရ, ရပ်လိုက်ရပါသည်။

## တာဝန်ခွဲဝေခြင်း

ယခုရေးသားနေဆဲဖြစ်သော တိပိဋကပါဠိ-မြန်မာ အဘိဓာန်ကြီးအပြင် အခြား ရေးသားစရာ အဘိဓာန်များလည်း ရှိသေး၏။ ထိုအဘိဓာန်များမှာ (၁)အဘိဓာန်အကျဉ်း၊ (၂) အဋ္ဌကထာသူစိ (သံဝဏ္ဏနာ အဘိဓာန်) (၃) အဘိဓမ္မာဝေါဟာရအဘိဓာန် စသည်ဘို့ဖြစ်၏။ ထိုအဘိဓာန်များအတွက်လည်း ဖြစ်နိုင်သမျှ တာဝန်ခွဲဝေထမ်းဆောင်ရဦးမည်ဖြစ်ရာ အောက်ပါ ဆရာတော် (၄)ပါးသည် တိပိဋကပါဠိ-မြန်မာ သရအဘိဓာန်ကြီး၏ အတွဲ(၃)မပြီးမီ ၁၉၆၉ ခုနှစ်၊ ဇူလိုင်လတိုင်အောင် သရအဘိဓာန်တာဝန်များကို ထမ်းဆောင်တော်မူခဲ့ကြပြီးလျှင် ထိုနှစ် ဩဂုတ်လမှစ၍ ယခုအချိန်တိုင်အောင် အဋ္ဌကထာသူစိအတွက် တာဝန်ပြောင်းလဲထမ်းဆောင်တော်မူကြသည်။

(၁) အရှင်နန္ဒမဉ္ဇူ, တမံကျောင်းဆရာတော်၊ ဒါးပိန်မြို့။

(၂) အရှင်ပဏ္ဍိတ, အစိုးရဓမ္မာစရိယ, ပိဋကတိုးတောရဆရာတော်၊ သောက်ကျေးရွာ၊

သာစည်မြို့နယ်။ ဤဆရာတော်သည် ၁၉၆၄-ခုနှစ်မှစ၍ ၁၉၆၉-ခုနှစ်တိုင်အောင် အဘိဓာန် စာပြုအဖြစ် ဆောင်ရွက်တော်မူခဲ့သည်။

(၃) အရှင် ဣန္ဒိယ, အစိုးရဓမ္မာစရိယ, သာစည်ကျောင်းဆရာတော်၊ သာစည်ကျေးရွာ၊ ရမည်းသင်းမြို့နယ်၊ ဤဆရာတော်သည် ၁၉၆၇-ခုနှစ်မှစ၍ ၁၉၆၉-ခုနှစ်အထိ အဘိဓာန် စာပြုအဖြစ် ဆောင်ရွက်တော်မူခဲ့၏။

(၄) အရှင်အဂ္ဂဓမ္မ, အစိုးရဓမ္မာစရိယ, B.A, ပန်းလင်းကျောင်းဆရာတော်၊ ပန်းလင်းကျေးရွာ၊ပင်လုံမြို့နယ်၊ ရှမ်းပြည်တောင်ပိုင်း။

အောက်ပါလူပညာရှင်နှစ်ဦးသည် ရံဖန်ရံခါ၌ သရအဘိဓာန် စာပြုခြင်း, စာမူတိုက်ဆိုင်ခြင်းဖြင့် အဘိဓာန်အတွဲ (၄)အတွက် ပါဝင်ဆောင်ရွက်ကြ၏။

(၁) ဦးသိန်းအောင် (ဒုတိယကျမ်းပြုမှူး၊ အဘိဓာန်ဌာနစု)

(၂) ဦးဝင်းအောင် (လက်ထောက်ကျမ်းပြုမှူး၊ အဘိဓာန်ဌာနစု)

ဤအတွဲ (၄)ကို ရေးသားပြုစုကြသော ပုဂ္ဂိုလ်တို့သည် မိမိတို့ဆည်းပူး လေ့လာခဲ့သော ပါဠိကျမ်း, ဘာသန္တရကျမ်းတို့ကို စွမ်းနိုင်သမျှ ကြိုးစား ကြည့်ရှု၍ မိမိတို့၌ရှိသမျှ ဉာဏ်ဝီရိယအားလုံးကို မချွင်းမချန် အသုံးပြုကာ ချွတ်ယွင်းချက် အပြစ်အနာကင်းသော အဘိဓာန်ကြီးဖြစ်စေလိုသောဆန္ဒကြီးမားစွာဖြင့် ရေးသားခဲ့ကြပေ၏၊ ရေးသားပြီးလက်ရေးမူ, လက်နှိပ်စက်မူ, ဂယ်လီပရူ, ဖောင်ကြမ်းပရူတို့ကိုလည်း အထပ်ထပ်ကြည့်ရှုခဲ့ကြ၏၊ နောက်ဆုံး အချောရိုက်၍ အတည်ပြုတော့မည်ဖြစ်သော စက်ပရူအထိပင် ကြိုးစား၍ ကြည့်ရှုပြင်ဆင်ခဲ့ကြပါ၏၊ သို့သော် မည်မျှလောက်ပင် ကြောင့်ကြစိုက်၍ အထပ်ထပ်ကြည့်ရှုပြင်ဆင်ကြပါသော်လည်း လုံးဝဥဿုံ အစွန်းအထင်းအပြောက်အစက်ချွတ်ယွင်းချက်ကင်း၍ သန့်ရှင်းပါပြီဟု စာရေးသူတို့ဝန်မခံနိုင်ကြပါ။ပါဠိဘာသာစကားအမှားအမှန်ကို တိကျစွာခွဲခြားဝေဖန်၍ သိနိုင်မှုသည် ပဋိသမ္ဘိဒါပတ္တပုဂ္ဂိုလ်တို့၏အရာသာ ဖြစ်၏၊ ဤစာရေးသူတို့မှာ ပဋိသမ္ဘိဒါပတ္တ မဟုတ်ရုံမျှမက ပါဠိအဋ္ဌကထာ, ဋီကာကျမ်းဂန်တို့နှင့် ဘာသန္တရကျမ်းဂန်တို့၌ တဖက်ကမ်းခတ် နှံ့စပ်တတ်မြောက်၍ ကျမ်းဂန်ဗဟုသုတကြွယ်ဝသော ပုဂ္ဂိုလ်ဟုရင်း, သတိ သမာဓိ ဉာဏ်ပညာ ရင့်သန်ကြီးမားသော ပုဂ္ဂိုလ်ဟုရင်း ဝန်ခံနိုင်သော အဆင့်အတန်းသို့ပင် မရောက်ကြပါ၊

ထို့ကြောင့် ရံဖန်ရံခါတွင် ဗဟုသုတမလုံလောက်၍ အမှားကို ရေးမိတတ်၏၊ ရံဖန်ရံခါတွင် ပင်ကိုယ်ဉာဏ်အားနည်းသောကြောင့် အမှန်သဘောရောက်အောင် မကြံနိုင်, ထိုးထွင်းမသိနိုင်၍လည်း အမှားကို ရေးမိတတ်၏၊ ရံဖန်ရံခါတွင် မှန်ကန်တိကျစွာ သိပြီးဖြစ်ပါလျက်ပင် လက်ငင်းတွင်ရေးသားသော အခါ သတိကင်းပေါ့ မေ့လျော့မှုကြောင့် အမှားကို ရေးလျက်မိသား ဖြစ်နေတတ်၏၊ အမှားကို မြင်အောင် ကြည့်နိုင်သည့် ဉာဏ်မျက်စိ စူးရှထက်မြက်သော ပုဂ္ဂိုလ်တို့၏ ရှုမြင်ကွင်း၌ ထိုချွတ်ယွင်းချက် အမဲစက်နှင့် လိုက္ခက် ဟာကွက်များ ပေါ်ထွက်လာလိမ့်ဦးမည်သာ ဖြစ်ပါသည်၊ စာရှုသူ ပညာရှင်

သူတော်စင်တို့သည် ထိုချွတ်ယွင်းချက်အမဲစက်ကို ချေဖျက်၍၎င်း, လိုကွက် ဟာကွက်ကို ဖြည့်စွက်၍၎င်း ကြည့်ရှုကြခြင်းဖြင့် အလွန်အလွန် ဖြစ်ပေါ်လာနိုင်ခဲ့သော ဤအဘိဓာန်ကြီးကို ရွှေအိုးကြီးရရှိသကဲ့သို့ ဝမ်းပန်းတသာ လက်ခံကြိုဆိုကြလိမ့်မည်ဟု ယူဆပါသည်။

## ဖြစ်တောင့်ဖြစ်ခဲ အဘိဓာန်ကြီး

ကလလရေကြည် တည်သည်မှစ၍ အမိဝမ်းခေါင်း ဆယ်လသော်းမျှ အောင်းနေရသော သန္ဓေသားကလေးသည် မိခင်ဖြစ်သူက သတိ, ဝီရိယ, ဉာဏ်အမြော်အမြင်ဖြင့် စောင့်ရှောက်ထိန်းသိမ်းခြင်းကြောင့်သာ ချမ်းသာစွာ မီးဖွားသန့်စင် ဖွားမြင်ရသကဲ့သို့ ထို့အတူ ပြည်ထောင်စုဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံတော်အစိုးရ ပြည်ထဲရေးနှင့် သာသနာရေးဝန်ကြီးဌာန သာသနာရေးဦးစီးဌာန၏ ပစ္စယာနုဂ္ဂဟကို ခံယူ၍ ဤစာရေးသားကြသော ဆရာတော်တို့ အနှစ်နှစ် အလလ ကြိုးစားရေးသားခဲ့ရသော အဘိဓာန်အတွဲ (၄) သည်လည်း အပိုင်း (၁) ကျမ်းစာ တအုပ်အနေအားဖြင့် အောင်မြင်စွာ ဖြစ်ထွန်း ပေါ်ထွက်လာပြီဖြစ်၏၊ ထိုကဲ့သို့ ပေါ်ထွက်လာရာ၌ ထိုအဘိဓာန်လုပ်ငန်းကို ဆုံးခန်းတိုင်ရောက်ပြီးမြောက်သည်အထိ ဆောင်ရွက်နိုင်အောင် ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်, ကျမ်းပြုမှူး ဦးမျိုးမြင့်တို့၏ မိမိတို့ဌာနဆိုင်ရာ လုပ်ငန်းကို သတိ, ဝီရိယ, ဉာဏ်အမြော်အမြင်ဖြင့် စီပံကွပ်ကဲ အုပ်ချုပ်မှုကြောင့်သာ ဤသရအဘိဓာန်အတွဲ (၄) အပိုင်း(၁)သည် ဖြစ်တောင့်ဖြစ်ခဲ အောင်မြင်စွာ ပေါ်ထွက်လာခဲ့ကြောင်း မှတ်တမ်းတင်ပါသည်။

### တိပိဋက ပါဠိ-မြန်မာအဘိဓာန်၌ အသုံးပြုသော
### ပါဠိ, အဋ္ဌကထာ, ဋီကာ ကျမ်းစဉ်ပုံနှင့်
# ကျမ်းမည် သင်္ကေတများ

---

ဤတိပိဋက, ပါဠိမြန်မာအဘိဓာန်၌ အသုံးပြုရသော ပါ-ဋ္ဌ-ဋီကျမ် စဉ်ပုံနှင့် သင်္ကေတပြပုံတို့ကို သိရှိရန် ဖော်ပြပါအံ့။

**ကျမ်းစဉ်ပုံ။** ။ဤအဘိဓာန်တွင် ပုဒ်တခုအတွက် ပါ-ဋ္ဌ-ဋီကျမ်းများကို အကိုးအကားပြုရာ၌ မူရင်းပဓာနကျသော ကျမ်းစာအုပ်အလိုက် ကိုးကားထားသည်၊ တနည်းအားဖြင့် ကျမ်းစာ အနုအရင့် အဆင့်အတန်း ၃-မျိုးခွဲ၍ ကိုးထားသည်။

ဥပမာ—ပါဠိတော်ပြီးမှ အဋ္ဌကထာကိုရင်း, ထို့နောက်မှ ဋီကာကျမ်းများကိုရင်း အကိုးအကားပြုသည်။

ယင်း ပါဠိတော်တို့တွင်လည်း နိကာယ် ၅-ရပ် ပိဋက ၃ ပုံတွင် ခုဒ္ဒကနိကာယ်ဝင် ဝိနည်း ၅ ကျမ်းကို ဦးစွာ ကိုးကား၍ ပြီးမှ ဒီဃနိကာယ်၊ မဇ္ဈိမနိကာယ်၊ သံယုတ္တနိကာယ်၊ အင်္ဂုတ္တရ-နိကာယ်နှင့် ကျန်ခုဒ္ဒကနိကာယ်ဝင်ကျမ်းများကို အစဉ်အလိုက် ကိုးကားသည်။

ကျန် ခုဒ္ဒကနိကာယ်ဝင်ကျမ်းများတွင်လည်း (ပူးတွဲပါကျမ်းစဉ်ပုံဇယားအရ) အဘိဓမ္မာ ၇-ကျမ်းကို ဦးစွာ ကိုးကား၍ ပဋိသမ္ဘိဒါမဂ် စသော ပါဠိတော်များကို ကိုးကားသည်။

သို့ရာတွင် အဘိဓာန်ဝင်ပုဒ်သည် ဝိနယဝေါဟာရပုဒ်ဖြစ်ပါမူ ဝိနည်းများကို ဦးစားပေး၍ရင်း, အခြား အဘိဓမ္မာဝေါဟာရ, သုတ္တန္တဝေါဟာရပုဒ်ဖြစ်ပါမူ အဘိဓမ္မာကျမ်း သုတ္တန်ကျမ်းများကို ဦးစားပေး၍ရင်း ကိုးကားသည်လည်း ရှိသည်။

**ကျမ်းမည်သင်္ကေတ။** ။ပါဠိ,အဋ္ဌကထာ, ဋီကာကျမ်းစာအမည်များကို ဖော်ပြရာ၌ အပြည့်အစုံ မဖော်ပြပဲ အတိုကောက် သင်္ကေတနည်းဖြင့်သာ ပြဆိုရုံ၍ နိကာယ်ကျမ်းစာ အရေအတွက်အလိုက် ၁–၂–၃–၄ ဂဏန်းများဖြင့်လည်း ပူးတွဲပြဆိုထားသည်။

ဥပမာ—ဝိနည်းပါဠိတော် ၅-ကျမ်းတွင် နံပါတ် ၁-ဖြစ်သော ပါရာဇိကဏ် ပါဠိတော်ကျမ်းကို 'ဝိ၊၁' ဟု သင်္ကေတပြ၍ သုံးစွဲထားသည်။

ဤနည်းဖြင့် ပူးတွဲပါကျမ်းစဉ်နှင့် သင်္ကေတဇယားများကို အသုံးပြု၍ ကိုးကားထားပါသည်။ အဘိဓာန်ဝင် တည်ပုဒ်များကို အက္ခရာစဉ်ရာ၌လည်း ပူးတွဲပါဇယားကို မှီထား၍ အက္ခရာစဉ်ထား ပါသည်။ (ဇယားကို ကြည့်။)

# တိပိဋက ပါဠိ-မြန်မာအဘိဓာန်

## ကျမ်းစဉ်ပုံနှင့် ကျမ်းအမည်သင်္ကေတ

## ပါဠိတော်များ

| ဦးရေ | ကျမ်းအမည် | သင်္ကေတ | ဦးရေ | ကျမ်းအမည် | သင်္ကေတ |
|---|---|---|---|---|---|
| | **ဝိနယပိဋက** | | | **အဘိဓမ္မပိဋက** | |
| ၁ | ပါရာဇိကပါဠိ | ဝိ၊၁။ | ၁၈ | ဓမ္မသင်္ဂဏီပါဠိ | အဘိ၊၁။ |
| ၂ | ပါစိတ္တိယပါဠိ | ဝိ၊၂။ | ၁၉ | ဝိဘင်္ဂပါဠိ | အဘိ၊၂။ |
| ၃ | မဟာဝဂ္ဂပါဠိ | ဝိ၊၃။ | | | |
| ၄ | စူဠဝဂ္ဂပါဠိ | ဝိ၊၄။ | ၂၀ | (က) ဓာတုကထာပါဠိ | အဘိ၊၃။ |
| ၅ | ပရိဝါရပါဠိ | ဝိ၊၅။ | | (ခ) ပုဂ္ဂလပညတ္တိပါဠိ | အဘိ၊၄။ |
| | | | ၂၁ | ကထာဝတ္ထုပါဠိ | အဘိ၊၅။ |
| | **ဒီဃနိကာယ** | | ၂၂ | ယမကပါဠိ (ပ) | ယမက၊၁။ |
| ၆ | သီလက္ခန္ဓဝဂ္ဂပါဠိ | ဒီ၊၁။ | ၂၃ | ယမကပါဠိ (ဒု) | ယမက၊၂။ |
| ၇ | မဟာဝဂ္ဂပါဠိ | ဒီ၊၂။ | ၂၄ | ယမကပါဠိ (တ) | ယမက၊၃။ |
| ၈ | ပါထိကဝဂ္ဂပါဠိ | ဒီ၊၃။ | ၂၅ | ပဋ္ဌာနပါဠိ (ပ) | ပဋ္ဌာန၊၁။ |
| | | | ၂၆ | " (ဒု) | ပဋ္ဌာန၊၂။ |
| | **မဇ္ဈိမနိကာယ** | | ၂၇ | " (တ) | ပဋ္ဌာန၊၃။ |
| | | | ၂၈ | " (စ) | ပဋ္ဌာန၊၄။ |
| ၉ | မူလပဏ္ဏာသပါဠိ | မ၊၁။ | ၂၉ | " (ပ) | ပဋ္ဌာန၊၅။ |
| ၁၀ | မဇ္ဈိမပဏ္ဏာသပါဠိ | မ၊၂။ | | | |
| ၁၁ | ဥပရိပဏ္ဏာသပါဠိ | မ၊၃။ | | **ခုဒ္ဒကနိကာယ** | |
| | **သံယုတ္တနိကာယ** | | ၃၀ | ပဋိသမ္ဘိဒါမဂ္ဂပါဠိ | ပဋိသံ။ |
| ၁၂ | သဂါထာဝဂ္ဂနှင့်နိဒါန ဝဂ္ဂသံယုတ္တပါဠိ | သံ၊၁။ | ၃၁ | (က) ခုဒ္ဒကပါဌပါဠိ | ခုဒ္ဒက။ |
| | | | | (ခ) ဓမ္မပဒပါဠိ | ဓမ္မ။ |
| ၁၃ | ခန္ဓဝဂ္ဂနှင့် သဠာယတနဝဂ္ဂသံယုတ္တပါဠိ | သံ၊၂။ | | (ဂ) ဥဒါနပါဠိ | ဥဒါန။ |
| | | | | (ဃ) ဣတိဝုတ္တကပါဠိ | ဣတိဝုတ်။ |
| ၁၄ | မဟာဝဂ္ဂသံယုတ္တပါဠိ | သံ၊၃။ | | (င) သုတ္တနိပါတပါဠိ | သုတ္တနိ။ |
| | **အင်္ဂုတ္တရနိကာယ** | | ၃၂ | (က) ဝိမာနဝတ္ထုပါဠိ | ဝိမာန။ |
| | | | | (ခ) ပေတဝတ္ထုပါဠိ | ပေတ။ |
| ၁၅ | အင်္ဂုတ္တရပါဠိ (ပ) | အံ၊၁။ | | (ဂ) ထေရဂါထာပါဠိ | ထေရ။ |
| ၁၆ | အင်္ဂုတ္တရပါဠိ (ဒု) | အံ၊၂။ | | | |
| ၁၇ | အင်္ဂုတ္တရပါဠိ (တ) | အံ၊၃။ | | (ဃ) ထေရီဂါထာပါဠိ | ထေရီ။ |

## ကျမ်းစဉ်ပုံနှင့် ကျမ်းအမည်သင်္ကေတ

## ပါဠိတော်များ

| ဦးရေ | ကျမ်းအမည် | သင်္ကေတ | ဦးရေ | ကျမ်းအမည် | သင်္ကေတ |
|---|---|---|---|---|---|
| | ကျန်ခုဒ္ဒကနိကာယ (အဆက်) | | ၃၇ | ဇာတကပါဠိ (ပ) | ဇာ၊၁။ |
| ၃၃ | အပဒါနပါဠိ (ပ) | အပ၊၁။ | ၃၈ | ဇာတကပါဠိ (ဒု) | ဇာ၊၂။ |
| ၃၄ | (က) အပဒါနပါဠိ (ဒု) | အပ၊၂။ | ၃၉ | (က) နေတ္တိပါဠိ | နေတ္တိ။ |
| | (ခ) ဗုဒ္ဓဝံသပါဠိ | ဗုဒ္ဓဝံ။ | | (ခ) ပေဋကောပဒေသပါဠိ | ပေဋကော။ |
| | (ဂ) စရိယာပိဋကပါဠိ | စရိယာ။ | | | |
| ၃၅ | မဟာနိဒ္ဒေသပါဠိ | မဟာနိ။ | | | |
| ၃၆ | စူဠနိဒ္ဒေသပါဠိ | စူဠနိ။ | ၄၀ | မိလိန္ဒပဉှာပါဠိ | မိလိန္ဒ။ |

## ကျမ်းစဉ်ပုံနှင့် ကျမ်းအမည်သင်္ကေတ

### အဋ္ဌကထာများ

| ဦးရေ | ကျမ်းအမည် | သင်္ကေတ |
|---|---|---|
| | **ဝိနယအဋ္ဌကထာ** | |
| ၁ | ပါရာဇိကကဏ္ဍအဋ္ဌကထာ (ပ) | ဝိ၊ဋ္ဌ၊၁၊ |
| ၂ | ပါရာဇိကကဏ္ဍအဋ္ဌကထာ (ဒု) | ဝိ၊ဋ္ဌ၊၂။ |
| ၃ | ပါစိတျာဒိအဋ္ဌကထာ | ဝိ၊ဋ္ဌ၊၃၊ |
| ၄ | စူဠဝဂ္ဂါဒိအဋ္ဌကထာ | ဝိ၊ဋ္ဌ၊၄။ |
| ၅ | ဝိနယသင်္ဂဟအဋ္ဌကထာ | ဝိ၊ သင်္ဂဟ၊ |
| ၆ | ကင်္ခါဝိတရဏီအဋ္ဌကထာ | ကင်္ခါ။ |
| | **ဒီဃနိကာယအဋ္ဌကထာ** | |
| ၇ | သီလက္ခန္ဓဝဂ္ဂ အဋ္ဌကထာ | ဒီ၊ဋ္ဌ၊၁။ |
| ၈ | မဟာဝဂ္ဂ ။ | ဒီ၊ဋ္ဌ၊၂။ |
| ၉ | ပါထိကဝဂ္ဂ ။ | ဒီ၊ဋ္ဌ၊၃၊ |
| | **မဇ္ဈိမနိကာယအဋ္ဌကထာ** | |
| ၁၀ | မူလပဏ္ဏာသအဋ္ဌကထာ (ပ) | မ၊ဋ္ဌ၊၁။ |
| ၁၁ | မူလပဏ္ဏာသအဋ္ဌကထာ (ဒု) | မ၊ဋ္ဌ၊၂။ |
| ၁၂ | မဇ္ဈိမပဏ္ဏာသ အဋ္ဌကထာ | မ၊ဋ္ဌ၊၃။ |
| ၁၃ | ဥပရိပဏ္ဏာသအဋ္ဌကထာ | မ၊ဋ္ဌ၊၄။ |
| | **သံယုတ္တနိကာယအဋ္ဌကထာ** | |
| ၁၄ | သံယုတ္တ အဋ္ဌကထာ (ပ) | သံ၊ဋ္ဌ၊၁။ |
| ၁၅ | ။ (ဒု) | သံ၊ဋ္ဌ၊၂။ |
| ၁၆ | ။ (တ) | သံ၊ဋ္ဌ၊၃။ |
| | **အင်္ဂုတ္တရနိကာယအဋ္ဌကထာ** | |
| ၁၇ | အင်္ဂုတ္တရ အဋ္ဌကထာ (ပ) | အံ၊ဋ္ဌ၊၁။ |
| ၁၈ | ။ (ဒု) | အံ၊ဋ္ဌ၊၂။ |
| ၁၉ | ။ (တ) | အံ၊ဋ္ဌ၊၃။ |

| ဦးရေ | ကျမ်းအမည် | သင်္ကေတ |
|---|---|---|
| | **အဘိဓမ္မပိဋက အဋ္ဌကထာ** | |
| ၂၀ | အဋ္ဌသာလိနီ အဋ္ဌကထာ | အဘိ၊ဋ္ဌ၊၁။ |
| ၂၁ | သမ္မောဟဝိနောဒနီ အဋ္ဌကထာ | အဘိ၊ဋ္ဌ၊၂။ |
| ၂၂ | ပဉ္စပကရဏအဋ္ဌကထာ | အဘိ၊ဋ္ဌ၊၃။ |
| ၂၃ | ပဋိသမ္ဘိဒါမဂ္ဂ အဋ္ဌကထာ (ပ) | ပဋိသံ၊ဋ္ဌ၊၁။ |
| ၂၄ | ။ (ဒု) | ပဋိသံ၊ဋ္ဌ၊၂။ |
| | **ကျန် ခုဒ္ဒကနိကာယ အဋ္ဌကထာ** | |
| ၂၅ | ခုဒ္ဒကပါဌ အဋ္ဌကထာ | ခုဒ္ဒက၊ဋ္ဌ။ |
| ၂၆ | ဓမ္မပဒ ။ (ပ) | ဓမ္မ၊ဋ္ဌ၊၁။ |
| ၂၇ | ဓမ္မပဒ ။ (ဒု) | ဓမ္မ၊ဋ္ဌ၊၂။ |
| ၂၈ | ဥဒါန ။ | ဥဒါန၊ဋ္ဌ၊ |
| ၂၉ | ဣတိဝုတ္တက ။ | ဣတိဝုတ်၊ဋ္ဌ။ |
| ၃၀ | သုတ္တနိပါတ ။ (ပ) | သုတ္တနိ၊ဋ္ဌ၊၁။ |
| ၃၁ | ။ ။ (ဒု) | သုတ္တနိ၊ဋ္ဌ၊၂။ |
| ၃၂ | ဝိမာနဝတ္ထု ။ | ဝိမာန၊ဋ္ဌ။ |
| ၃၃ | ပေတဝတ္ထု ။ | ပေတ၊ဋ္ဌ။ |
| ၃၄ | ထေရဂါထာ ။ (ပ) | ထေရ၊ဋ္ဌ၊၁။ |
| ၃၅ | ။ ။ (ဒု) | ထေရ၊ဋ္ဌ၊၂။ |
| ၃၆ | ထေရီဂါထာ | ထေရီ၊ဋ္ဌ။ |
| ၃၇ | အပဒါန ။ (ပ) | အပ၊ဋ္ဌ၊၁။ |
| ၃၈ | ။ ။ (ဒု) | အပ၊ဋ္ဌ၊၂။ |
| ၃၉ | ဗုဒ္ဓဝံသ ။ | ဗုဒ္ဓဝံ၊ဋ္ဌ။ |
| ၄၀ | စရိယာပိဋက ။ | စရိယာ၊ဋ္ဌ။ |
| ၄၁ | မဟာနိဒ္ဒေသ ။ | မဟာနိ၊ဋ္ဌ။ |
| ၄၂ | စူဠနိဒ္ဒေသ ။ | စူဠနိ၊ဋ္ဌ။ |

## ကျမ်းစဉ်ပုံနှင့် ကျမ်းအမည်သင်္ကေတ

### အဋ္ဌကထာများ

| ဦးရေ | ကျမ်းအမည် | သင်္ကေတ | ဦးရေ | ကျမ်းအမည် | သင်္ကေတ |
|---|---|---|---|---|---|
| | ကျန်ခုဒ္ဒကနိကာယ အဋ္ဌကထာ | | | ကျန်ခုဒ္ဒကနိကာယ အဋ္ဌကထာ | |
| ၄၃ | ဇာတကအဋ္ဌကထာ (ပ) | ဇာ၊ဋ္ဌ၊၁။ | ၄၈ | ဇာတက အဋ္ဌကထာ (ဆ) | ဇာ၊ဋ္ဌ၊၆။ |
| ၄၄ | ။ ။ (ဒု) | ဇာ၊ဋ္ဌ၊၂။ | ၄၉ | ။ ။ (သ) | ဇာ၊ဋ္ဌ၊၇။ |
| ၄၅ | ။ ။ (တ) | ဇာ၊ဋ္ဌ၊၃၊ | ၅၀ | နေတ္တိအဋ္ဌကထာ | နေတ္တိ၊ဋ္ဌ။ |
| ၄၆ | ။ ။ (စ) | ဇာ၊ဋ္ဌ၊၄။ | ၅၁ | ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ (ပ) | ဝိသုဒ္ဓိ၊၁။ |
| ၄၇ | ။ ။ (မ) | ဇာ၊ဋ္ဌ၊၅။ | ၅၂ | ။ ။ (ဒု) | ဝိသုဒ္ဓိ၊၂။ |

## ကျမ်းစဉ်ပုံနှင့် ကျမ်းအမည်သင်္ကေတ

### ဋီကာများ

| ဦးရေ | ကျမ်းအမည် | သင်္ကေတ | ဦးရေ | ကျမ်းအမည် | သင်္ကေတ |
|---|---|---|---|---|---|
| | **ဝိနယဋီကာ** | | | **သံယုတ္တနိကာယဋီကာ** | |
| ၁ | ဝဇိရဗုဒ္ဓိဋီကာ | ဝဇိရ။ | ၁၆ | သံယုတ္တဋီကာ (ပ) | သံ။ဋီ၊၁။ |
| ၂ | သာရတ္ထဒီပနီဋီကာ (ပ) | သာရတ္ထ၊၁။ | ၁၇ | ။ (ဒု) | သံ၊ဋီ၊၂။ |
| ၃ | ။ (ဒု) | သာရတ္ထ၊၂။ | | | |
| ၄ | ။ (တ) | သာရတ္ထ၊၃။ | | **အင်္ဂုတ္တရနိကာယဋီကာ** | |
| ၅ | ဝိမတိဝိနောဒနီဋီကာ (ပ) | ဝိမတိ၊၁။ | ၁၈ | အင်္ဂုတ္တရဋီကာ (ပ) | အံ၊ဋီ၊၁။ |
| ၆ | ။ (ဒု) | ဝိမတိ၊၂။ | ၁၉ | ။ (ဒု) | အံ၊ဋီ၊၂။ |
| ၇ | ကင်္ခါဝိတရဏီပုရာဏဋီကာ နှင့် အဘိနဝဋီကာ | ကင်္ခါ ဋီ။ | ၂၀ | ။ (တ) | အံ၊ဋီ၊၃။ |
| | **ဒီဃနိကာယဋီကာ** | | | **အဘိဓမ္မပိဋကဋီကာ** | |
| ၈ | သီလက္ခန္ဓဝဂ္ဂဋီကာ | ဒီ၊ဋီ၊၁။ | ၂၁ | (က) မူလဋီကာ (ပ) | မူလဋီ၊၁။ |
| ၉ | သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာ (ပ) | သီ၊ဋီ၊ သစ်၊၁။ | | (ခ) အနုဋီကာ (ပ) | အနုဋီ၊၁။ |
| ၁၀ | သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာ (ဒု) | သီ၊ဋီ။ သစ်၊၂။ | ၂၂ | (က) မူလဋီကာ (ဒု) | မူလဋီ၊၂။ |
| ၁၁ | မဟာဝဂ္ဂဋီကာ | ဒီ။ဋီ၊၂။ | | (ခ) အနုဋီကာ (ဒု) | အနုဋီ၊၂။ |
| ၁၂ | ပါထိကဝဂ္ဂဋီကာ | ဒီ၊ဋီ၊၃။ | ၂၃ | (က) မူလဋီကာ (တ) | မူလဋီ၊၃။ |
| | **မဇ္ဈိမနိကာယဋီကာ** | | | (ခ) အနုဋီကာ (တ) | အနုဋီ၊၃။ |
| | | | | **ကျန်သောဋီကာ** | |
| | | | ၂၄ | ဝိသုဒ္ဓိမဂ္ဂဋီကာ (ပ) | ဝိသုဒ္ဓိ၊ဋီ။၁ |
| ၁၃ | မူလပဏ္ဏာသဋီကာ (ပ) | မ၊ဋီ၊၁။ | ၂၅ | ။ (ဒု) | ဝိသုဒ္ဓိ၊ဋီ။၂ |
| ၁၄ | ။ (ဒု) | မ၊ဋီ၊၂။ | ၂၆ | (က) နေတ္တိဋီကာ | နေတ္တိ ဋီ။ |
| ၁၅ | မဇ္ဈိမ–ဥပရိ–ပဏ္ဏာသဋီကာ | မ၊ဋီ၊၃။ | | (ခ) နေတ္တိဝိဘာဝိနီ | နေတ္တိ၊ ဝိဘာ |

## "ကျမ်းညွှန်းသင်္ကေတများ"

| | |
|---|---|
| အံ။ ၁။ ၂။ ၃ | အင်္ဂုတ္တရပါဠိ (ပါဒု၊တ) |
| အံ၊ဋီ။ ၁။ ၂။ ၃။ | အင်္ဂုတ္တရဋီကာ (ပါဒု၊တ) |
| အံ၊ဋ္ဌ၊ ၁။ ၂။ ၃။ | အင်္ဂုတ္တရအဋ္ဌကထာ (ပါဒု၊တ) |
| အနုဋီ၊ ၁။ | ဓမ္မသင်္ဂဏီအနုဋီကာ။ |
| အနုဋီ။ ၂။ | ဝိဘင်္ဂအနုဋီကာ။ |
| အနုဋီ၊ ၃။ | ပဉ္စပကရဏအနုဋီကာ။ |
| အပ။ ၁။ ၂။ | အပဒါနပါဠိ (ပါဒု) |
| အပ၊ဋ္ဌ။ ၁။ ၂။ | အပဒါနအဋ္ဌကထာ (ပါဒု) |
| အပ၊သျှ။ | အပဒါန်ပါဠိတော်နိဿျ။ |
| အဘိ၊က။ | အဘိဓမ္မပိဋက၊ကထာဝတ္ထုပါဠိ။ |
| အဘိ၊ဋ္ဌ၊ ၁။ ၂။ ၃။ | အဘိဓမ္မပိဋက အဋ္ဌကထာ<br>၁။ အဋ္ဌသာလိနီ။ ၂။ သမ္မောဟဝိနောဒနီ။<br>၃။ ပဉ္စပကရဏ။ |
| အဘိ၊ဓ။ | အဘိဓမ္မပိဋက၊ဓမ္မသင်္ဂဏီပါဠိ။ |
| အဘိ ဓာ။ | အဘိဓမ္မပိဋက၊ဓာတုကထာပါဠိ။ |
| အဘိ၊ပု။ | အဘိဓမ္မပိဋက၊ပုဂ္ဂလပညတ္တိပါဠိ။ |
| အဘိ၊ဝိ။ | အဘိဓမ္မပိဋက၊ဝိဘင်္ဂပါဠိ။ |
| အမရ။ | အမရကောသ သက္ကတအဘိဓာန်။ |
| အမရ၊သျှ။ | အမရကောသနိဿျ။ အဘယာရာမဆရာတော်<br>လက်ရေး စာကူး စက်မူ။ |
| ဣတိဝုတ်။ | ဣတိဝုတ္တကပါဠိ။ |
| ဣတိဝုတ်၊ဋ္ဌ။ | ဣတိဝုတ္တက အဋ္ဌကထာ။ |
| ဥဒါန။ | ဥဒါန ပါဠိ။ |
| ဥဒါန၊ဋ္ဌ။ | ဥဒါနအဋ္ဌကထာ။ |
| ကင်္ခါ။ | ကင်္ခါဝိတရဏီအဋ္ဌကထာ။ |
| ကင်္ခါ၊ဋီ။ | ကင်္ခါဝိတရဏီဋီကာ။<br>(ပုရာဏဋီကာနှင့် အဘိနဝဋီကာ) |
| ကင်္ခါ၊ယော။ | ကင်္ခါယောဇနာ မဟာဋီကာ။ |
| ကစ္စည်း။ | ကစ္စည်းသဒ္ဒါကြီး(သုတ်နံပါတ်)။ |
| ခုဒ္ဒက။ | ခုဒ္ဒကပါဌပါဠိ။ |
| ခုဒ္ဒက၊ဋ္ဌ။ | ခုဒ္ဒကပါဌ အဋ္ဌကထာ။ |
| စရိယာ။ | စရိယာ ပိဋကပါဠိ။ |
| စရိယာ၊ဋ္ဌ။ | စရိယာပိဋက အဋ္ဌကထာ။ |
| စူဠနိ။ | စူဠနိဒ္ဒေသပါဠိ။ |

## ကျမ်းညွှန်းသင်္ကေတများ

| | |
|---|---|
| စူဠနိ၊ဋ္ဌ။ | စူဠနိဒ္ဒေသ အဋ္ဌကထာ။ |
| ဇာ၊၁။၂။ | ဇာတကပါဠိ (ပ၊ဒု)။ |
| ဇာ၊ဋ္ဌ၊၁–၇။ | ဇာတကအဋ္ဌကထာ (ပဌမ–သတ္တမ)။ |
| ဏွာဒိ။ | မောဂ္ဂလ္လာနဏွာဒိဝုတ္တိ၊ |
| တောင်ပေါက်၊ဓာန်။သျှ။ | တောင်ပေါက်ဆရာတော်ပြုစုသော် အဘိဓာန်နိသျသစ်။ |
| ထေရ။ | ထေရဂါထာ ပါဠိ။ |
| ထေရ၊ဋ္ဌ။ | ထေရဂါထာ အဋ္ဌကထာ။ |
| ထေရီ။ | ထေရီဂါထာ ပါဠိ။ |
| ထေရီ၊ဋ္ဌ။ | ထေရီဂါထာ အဋ္ဌကထာ။ |
| ဒီ၊၁။၂။၃။ | ဒီဃနိကာယပါဠိ၊ (၁)သီလက္ခန္ဓဝဂ္ဂပါဠိ။ (၂)မဟာဝဂ္ဂပါဠိ၊ (၃)ပါထိကဝဂ္ဂပါဠိ။ |
| ဒီ၊ဋီ၊၁။၂။၃။ | ဒီဃနိကာယအဋ္ဌကထာ၏ အဖွင့်ဋီကာ (၁) သီလက္ခန္ဓဝဂ္ဂဋီကာ။ (၂) မဟာဝဂ္ဂဋီကာ။ (၃)ပါထိကဝဂ္ဂဋီကာ။ |
| ဒီ၊ဋ္ဌ၊၁။၂။၃။ | ဒီဃနိကာယ အဋ္ဌကထာ။(၁)သီလက္ခန္ဓဝဂ္ဂအဋ္ဌကထာ။ (၂) မဟာဝဂ္ဂအဋ္ဌကထာ။ (၃) ပါထိကဝဂ္ဂအဋ္ဌကထာ။ |
| ဒီပဝံ။ | ဒီပဝံသ။ |
| ဓမ္မ။ | ဓမ္မပဒပါဠိ။ |
| ဓမ္မ၊ဋ္ဌ၊၁၊၂။ | ဓမ္မပဒ အဋ္ဌကထာ (ပ၊ဒု)။ |
| ဓာန်။ | အဘိဓာန်(အဘိဓာနပ္ပဒီပိကာ ဂါထာနံပါတ်။) |
| ဓာန်၊ဋီ။ | အဘိဓာန်ဋီကာ ဂါထာနံပါတ်။ |
| ဓာန်၊သျှ၊သစ်။ | အဘိဓာန်နိသျသစ် (အဘယာရာမဆရာတော် ပြုစုသည်)။ |
| နီတိ၊ဓာ။ | သဒ္ဒနီတိဓာတုမာလာ။ |
| နီတိ၊ဓာ၊သျှ။ | သဒ္ဒနီတိဓာတုမာလာနိသျ။ |
| နီတိ၊ပဒ။ | သဒ္ဒနီတိ ပဒမာလာ။ |
| နီတိ၊ပဒ၊သျှ။ | သဒ္ဒနီတိ ပဒမာလာနိသျ။ |
| နီတိ၊သုတ္တ။ | သဒ္ဒနီတိ သုတ္တမာလာ။ |
| နီတိ၊သုတ္တ၊သျှ။ | သဒ္ဒနီတိ သုတ္တမာလာနိသျ။ |
| နေတ္တိ။ | နေတ္တိပါဠိ။ |
| နေတ္တိ၊ဋီ။ | နေတ္တိဋီကာ။ |
| နေတ္တိ၊ဋ္ဌ။ | နေတ္တိအဋ္ဌကထာ။ |
| နေတ္တိ၊ဝိ။ | နေတ္တိဝိဘာဝိနီ။ |
| ပဋိသံ။ | ပဋိသမ္ဘိဒါမဂ္ဂပါဠိ။ |
| ပဋိသံ၊ဋ္ဌ၊၁။၂။ | ပဋိသမ္ဘိဒါမဂ္ဂအဋ္ဌကထာ(ပ၊ဒု)။ |

## ကျမ်းညွှန်းသင်္ကေတများ

| | |
|---|---|
| ပဋ္ဌာန။ | ပဋ္ဌာနပါဠိ။ |
| ပါစိတ်၊ယော။ | ပါစိတျာဒိယောဇနာ။ |
| ပေ္ဋကော။ | ပေဋကောပဒေသပါဠိ။ |
| ပေတ။ | ပေတဝတ္ထုပါဠိ။ |
| ပေတ၊ဋ္ဌ။ | ပေတဝတ္ထုအဋ္ဌကထာ။ |
| ဗုဒ္ဓဝံ။ | ဗုဒ္ဓဝံသ ပါဠိ။ |
| ဗုဒ္ဓဝံ၊ဋ္ဌ။ | ဗုဒ္ဓဝံသ အဋ္ဌကထာ။ |
| မ၊၁။၂။၃။ | မဇ္ဈိမနိကာယပါဠိ။ (၁) မူလပဏ္ဏာသပါဠိ။ (၂) မဇ္ဈိမပဏ္ဏာသပါဠိ။ (၃) ဥပရိပဏ္ဏာသပါဠိ။ |
| မ၊ဋီ၊၁။၂။၃။ | မဇ္ဈိမနိကာယအဋ္ဌကထာ၏ဋီကာ။(၁) မူလပဏ္ဏာသဋီကာ ပဌမအုပ်။ (၂) မူလပဏ္ဏာသဋီကာ ဒုတိယအုပ်။ (၃) မဇ္ဈိမပဏ္ဏာသဋီကာ,ဥပရိပဏ္ဏာသဋီကာ။ |
| မ၊ဋ္ဌ။၁။၂။၃။၄။ | မဇ္ဈိမနိကာယ်အဋ္ဌကထာ (ပ၊ဒု၊တ၊စ) |
| မဏိမဉ္ဇူ၊၁။၂။ | မဏိသာရမဉ္ဇူသာဋီကာ၊(ပ၊ဒု) |
| မဟာနိ။ | မဟာနိဒ္ဒေသပါဠိ။ |
| မဟာနိ၊ဋ္ဌ။ | မဟာနိဒ္ဒေသအဋ္ဌကထာ ။ |
| မဟာဝံ။ | မဟာဝံသ။ |
| မိလိန္ဒ။ | မိလိန္ဒပဉှပါဠိ။ |
| မူလဋီ၊၁။၂။၃။ | အဘိဓမ္မာအဋ္ဌကထာ၏အဖွင့် မူလဋီကာ။ (၁) ဓမ္မသင်္ဂဏီမူလဋီကာ။(၂)ဝိဘင်္ဂမူလဋီကာ။ (၃) ပဉ္စပကရဏ မူလဋီကာ။ |
| မောဂ်။ | မောဂ္ဂလ္လာနဗျာကရဏ။ |
| မောဂ်၊ပဉ္စိကာ။ | မောဂ္ဂလ္လာနဗျာကရဏအဖွင့် ဝုတ္တိဝိဝရဏပဉ္စိကာ။ |
| ယမက။၁။၂။၃။ | ယမကပါဠိ(ပ၊ဒု၊တ)။ |
| ရူ။ | ပဒရူပသိဒ္ဓိ။ |
| ရူ၊ဋီ။ | ပဒရူပသိဒ္ဓိဋီကာ။ |
| ဝဇိရ။ | ဝဇိရဗုဒ္ဓိဋီကာ။ |
| ဝါစပ္ပတိ။ | ဝါစပ္ပတိသက္ကတ အဘိဓာန်။ |
| ဝိ။၁—၅။ | ဝိနယပိဋကပါဠိ။(၁)ပါရာဇိကကဏ်။(၂)ပါစိတ္တိယ။ (၃)မဟာဝဂ္ဂ။(၄)စူဠဝဂ္ဂ။(၅)ပရိဝါရပါဠိ။ |
| ဝိ၊ဋ္ဌ။၁—၄။ | ဝိနယပိဋကအဋ္ဌကထာ။ (၁) ပါရာဇိကကဏ်အဋ္ဌကထာ ပဌမအုပ်။(၂)ရင်းဒုတိယအုပ်။ (၃)ပါစိတျာဒိအဋ္ဌကထာ။(၄)စူဠဝဂ္ဂါဒိအဋ္ဌကထာ။ |
| ဝိနယာလင်္ကာရ။၁။၂။ | ဝိနယာလင်္ကာရဋီကာ(ပ၊ဒု) |

## ကျမ်းညွှန်းသင်္ကေတများ

| | |
|---|---|
| ဝိ၊နိစ္ဆယ။ | ဝိနယဝိနိစ္ဆယ၊ ဂါထာနံပါတ်။ |
| ဝိ၊နိစ္ဆယ၊ဋီ။ | ဝိနယဝိနိစ္ဆယဋီကာ ဂါထာနံပါတ်။ |
| ဝိ၊ပိ၊ဓာန်။ | ဝိသုဒ္ဓါရုံပိဋကအဘိဓာန်။ |
| ဝိဘာဝိနီ။ | အဘိဓမ္မတ္ထဝိဘာဝင်နီဋီကာ(ဋီကာကျော်)။ |
| ဝိမတိ။၁။၂။ | ဝိမတိဝိနောဒနီဋီကာ(ပ၊ဒု) |
| ဝိမာန။ | ဝိမာနဝတ္ထု ပါဠိ။ |
| ဝိမာန၊ဋ္ဌ။ | ဝိမာနဝတ္ထု အဋ္ဌကထာ။ |
| ဝိ၊သင်္ဂဟ။ | ဝိနယသင်္ဂဟအဋ္ဌကထာ။ |
| ဝိသုဒ္ဓိ။၁။၂။ | ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ(ပ၊ဒု)။ |
| ဝိ သုဒ္ဓိ၊ဋီ။၁။၂။ | ဝိသုဒ္ဓိမဂ္ဂမဟာဋီကာ(ပ၊ဒု)။ |
| ဝိလျှမ်။ | ဆာမိုနီယာဝီလျှမ်၏ သက္ကတအင်္ဂလိပ်အဘိဓာန်။ |
| သံ၊၁။၂။၃။ | သံယုတ္တပါဠိ(ပ၊ဒု၊တ) |
| သံ၊ဋီ။၁။၂။ | သံယုတ္တဋီကာ (ပ၊ဒု) |
| သံ၊ဋ္ဌ။၁။၂။၃။ | သံယုတ္တအဋ္ဌကထာ(ပ၊ဒု၊တ) |
| **သင်္ဂဟ** | အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာ၊ (အဘိဓမ္မတ္ထ သင်္ဂြိုဟ်)။ |
| သာရတ္ထ။၁။၂။၃။ | သာရတ္ထဒီပနီဋီကာ(ပ၊ဒု၊တ) |
| သီ၊ဋီ၊သစ်။၁။၂။ | သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာ(ပ၊ဒု) |
| သုတ္တနိ။ | သုတ္တနိပါတ ပါဠိ။ |
| သုတ္တနိ၊ဋ္ဌ။၁။၂။ | သုတ္တနိပါတ အဋ္ဌကထာ(ပ၊ဒု) |
| သုစိ။ | အဘိဓာနပ္ပဒီပိကာသူစိ။ |
| C.P.D | A Critical Pāli Dicti nary· |
| D.P.P.N | Dictionary of Pāli Proper Names. |
| P.T.S | The Pāli Text Society's Pāli-English Dictionary. |

## အက္ခရာစဉ်အညွှန်း

အက္ခရာစဉ်ရာ၌ သရဆုံးသောပုဒ်နှင့် နိဂ္ဂဟိတ်ဆုံးသောပုဒ် ၂-မျိုးတွင် သရဆုံးသောပုဒ်ကို ရှေးဦးထား၍ နိဂ္ဂဟိတ်ဆုံးသောပုဒ်ကို နောက်ထားသည်၊ အဘယ့်ကြောင့်ဆိုသော် ဗျည်း ၃၃-လုံးတွင် နိဂ္ဂဟိတ် ံသည် ရှေ့သရကိုမှီသော ပုဗ္ဗာသယဗျည်းဖြစ်သောကြောင့် ကျန်ဗျည်း ၃၂-လုံး၏ ရှေ့၌ထား၍ စဉ်သည်။ (အက္ခရာဝလိစဉ်ပုံကို နှာ ၈၂၃-ကြည့်)

ပုံစံ – အ=အ

အံသ=အ+–+သ်+အ

အနေက=န+ေက်+အ

အနေကံသ=န+ေက်+အ+–+သ်+အ

အနေကကပ္ပ=န+ေက်+အ+က်+အ+ပ္ပ်+အ

က=က်+အ

ကံ=က်+အ+–

ကရေယျ=ကရ်+ေယျ်+အ

ကရေယျံ=ကရ်+ေယျ်+အ+–

ဤအက္ခရာစဉ်ပုံ၌ ကျန် သံယုတ်လုံးဆင့်များကို နည်းမှီးယူနိုင်လောက်ပြီဖြစ်၍ မထည့်သွင်းလိုက်ပြီ။

ဤကျမ်း၌ အသုံးပြုသော မြန်မာသက္ကတစာလုံးများမှ ထူးသောစာလုံးများ—

| | | | | | | | |
|---|---|---|---|---|---|---|---|
| သရများ— | ကၖ (ရိ) | ကၗ (ရီ) | လၘ (လရိ) | လၙ (လရီ) | ဲ (အိုက်) | ဩော် (အောက်) | အး (အး) |
| ဗျည်းများ— | | ဂ (တာလုဇ-သ) | | မ (မုဒ္ဓဇ-သ) | | | |

စာလုံးဆင့်များ— ဥ=ဉ်=ဥ

မ္ဂ=မ်+ဂ

မ္ဃ=မ်+ဃ

ကီ= ရ်+က (ဗျည်း၏ အထက်၌ရှိသော " ႇ "ကို 'ရေဖ'ဟု ခေါ်သည်၊ ရ-နှင့် အတူတူဖြစ်သည်။ ရ–နှင့် အခြားဗျည်းတို့နှင့် ဆင့်ရာ၌လည်း နည်းတူ မှတ်ရန်။ )

## သင်္ကေတအချုပ်

| | |
|---|---|
| ေ | ကေဝုစ် |
| ကမ္မ၊ကြိ | ကံဟောကြိယာ |
| ကာ၊ကြိ | ကာရိုက်ကြိယာ |
| ကြိ | ကြိယာ |
| ကြိ၊ဝိ | ကြိယာဝိသေသန |
| စ | စတုတ္ထီဝိဘတ် |
| ဆ | ဆဋ္ဌီဝိဘတ် |
| တ | တတိယာဝိဘတ် |
| တိ | တိလိင် |
| ထိ | ဣတ္ထိလိင် |
| ဒု | ဒုတိယာဝိဘတ် |
| နံ | နပုလ္လိင် |
| ပ | ပဌမာဝိဘတ် |
| ပု | ပုလ္လိင် |
| ဗ | ဗဟုဝုစ် |
| ဗျ | အဗျယပုဒ် |
| ပံ | ပဉ္စမီဝိဘတ် |
| သ | သတ္တမီဝိဘတ် |
| သံ | သက္ကတ၊သံသကရိုတ် |

# တိပိဋက

# ပါဠိ-မြန်မာအဘိဓာန်

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

အာ[၁]—"အာ" အက္ခရာ၊ "အာ" သရ၊ လေးဆယ့်တလုံးသော အက္ခရာ,ရှစ်လုံးသော သရတို့တွင် နှစ်လုံးမြောက် – လည်ချောင်းအရပ်၌ ဖြစ်သော (ကဏ္ဍဇ) – ရှည်သော အသံဖြင့် ရွတ်ဆိုအပ်သော (ဒီဃ) – နိဂ္ဂဟိတ်မှတပါး သုံးဆယ့် နှစ်လုံးသော ဗျည်းတို့၏မှီရာ (နိဿယ) – အက္ခရာ – သရ။

အာ[၂]—လိင်,ဓာတ်တို့နောင် – စီရင်အပ်သော – သက်သော – ပစ္စည်းဖြစ်သော အာ။ ၎င်း အာ-ပစ္စည်းသည် (၁) ဣတ္ထိလိင်အဖြစ် ထင်ရှားစေရန် သက်သော (ဣတ္ထိဇောတက) အာပစ္စည်း။ (၂) သမာသ်ပုဒ် အဆုံး၌ သက်သော (သမာသန္တ) အာပစ္စည်း။ (၃) ကတ (=ပြုလုပ်အပ်သော အရာဟူသော) အနက်၌ သက်သော တဒ္ဓိတ် အာပစ္စည်း။ (၄) သု-ဓာတ်နောင် (ကတ္တား အနက်၌?) သက်သော အာပစ္စည်းဟူ၍ ၄-မျိုးရှိသည်။ ဥဒါဟရုဏ် ပုံစံတို့ကား။

(၁) သဗ္ဗာ၊ ယာ၊ သာ၊ ကာ၊ ကတရာ။ ကစ္စည်း။၂၃၇။ ကညာ၊ သဒ္ဒါ။ နီတိ၊ သုတ္တ။ ၄၆၆။ ဓမ္မဒိန္နာ။ မောဂ်၊၃။၂၆။ (၂)ဂါဏ္ဍီဝ-(ဂံဍီဝ-ပြာ။ ဂါဏ္ဍီဝ-သံ။) ဓန္ဝာ၊ ပစ္စက္ခဓမ္မာ၊ ဝိဝဋ္ဋစ္ဆဒါ။ ကစ္စည်း။၃၄၀။ ရူ။နှာ-၂၀၃။ နီတိ၊သုတ္တ။ ၇၃၂။ (၃) သူရေန နာမ ဝနစရကေန ကတာ ပါနဇာတိ သုရာ။ နီတိ၊ သုတ္တ။ ၈၀၀။ (၄) သုဏာတီတိ သာ။ နီတိ၊ သုတ္တ။ ၁၁၁၆။ (သို့သော် နီတိ၊သုတ္တ။ ၁၂၈၅။ ကစ္စည်း။၆၄၇။ ရူ။နှာ-၄၁၁-တို့၌ ၎င်း "သာ" သဒ္ဒါကို သုန-ပုဒ်မှ ဥန-ကို အာ-ပြု၍ ပြီးကြောင်းကိုလည်း ပြဆိုကြသည်။)

အာ[၃]—ဓာတ်တို့နောင် စီရင်အပ်သော ဝိဘတ်ဖြစ်သော အာ။ ၎င်း-အာဝိဘတ်သည် (၁) အာချာတ်၊ ဟိယျတ္တနီဝိဘတ်, ပရဿပုဒ်, ပဌမပုရိသ်,နာမယောဂ,ဧကဝုစ် အာ-ဝိဘတ်။ (၂) အာချာတ်၊ အဇ္ဇတနီ ဝိဘတ်, အတ္တနောပုဒ်, ပဌမပုရိသ်, နာမယောဂ, ဧကဝုစ် အာဝိဘတ် ဟူ၍ ၂-မျိုးရှိသည်။ (၁) ကစ္စည်း။ ၄၂၇။ နီတိ၊သုတ္တ။၉၀၀။ (၂) ကစ္စည်း။၄၂၈။ နီတိ၊သုတ္တ။၉၀၁။ ဟိယျတ္တနဇ္ဇတနီသု၊ အာ-ဒွယံ မတမေတ္ထ ဟိ။ နီတိ၊ပဒ။၆၅။

အာ[၄]—သဒ္ဒါအစီအရင်ဖြင့် အခြားသောအက္ခရာတို့မှ ပြောင်းလဲလာသော အာသရ၊(၁)(က)

သန္ဓိစပ်ရာ၌ အသရ-မှ ပြောင်းလဲလာသော အာသရ။ ဗုဒ္ဓ+အနုဿတိ = ဗုဒ္ဓါနုဿတိ။ ရှူ။နှာ-၁၁။ န+အယျော=နာယျော။ န+ အဿုစ = နာဿုစ။ နီတိ၊သုတ္တ။၄၁။ သ+ အန္တေဝါသိကော = သာန္တေဝါသိကော။ ရှင်း-၄၂။ ဘဝ+အဘဝ=ဘဝါဘဝ။ သံဝရ + အသံဝရ= သံဝရာသံဝရ။ အာ၂-ကြည့်။ (ခ) ဏ-အနုဗန် ပါရှိသော ပစ္စည်းကြောင့် အသရ မှ ပြောင်းလဲလာသော အာသရ။ အပါယ+ဏိက=အာပါယိက။ ရှူ။နှာ-၂၂၅။ အဘိဓမ္မ + ဏိက=အာဘိဓမ္မိက။ ကစ္စည်း။ ၄၀၀။ အလသ + ဏျ = အာလသျ။ နီတိ၊ သုတ္တ။၇၀၀။ ကရ+ဏေ+တိ=ကာရေတိ။ ကစ္စည်း။၄၈၃။ဃဋ္ဋ+ဏေ+တိ=ဃာဋ္ဋေတိ။ ရှင်း-၄၈၄။ ကရ+ဏျ=ကာရိယ။ဘရ+ဏျ =ဘာရိယ။ ကစ္စည်း။၅၄၁။ ရှူ။နှာ-၃၄၂။ (ဂ) သချ်ာအရာ၌ အသရမှ ပြောင်းလဲလာသော အာသရ။ ကေ+ဒသ = ကောဒသ။ အဋ္ဌ+ဒသ=အဋ္ဌာရသ။ ကစ္စည်း။၃၈၃။ ရှူ။ နှာ-၁၁၈။ နီတိ၊သုတ္တ။၈၁၅။ (၂) (က) ဏ-အနုဗန်ရှိသော ပစ္စည်းကြောင့် ဣသရ-မှ ပြောင်းလဲလာသော အာသရ။ ဣသိ+ဏျ= အာရိသျ (အာရိဿ)။ ဣဏ+ဏျ=အာဏျ။ ကစ္စည်း။၄၀၂။ ရှူ။နှာ-၂၂၇။ နီတိ၊သုတ္တ။ ၈၅၇။ မောဂ်၊၄။၁၂၇။ (ခ) သချ်ာအရာ၌ ဣသရမှ ပြောင်းလဲလာသော အာသရ။ ဒွိ+ ဒသ=ဒွါဒသ။ ကစ္စည်း။၃၈၃။ နီတိ၊သုတ္တ။ ၈၁၅။ ဒွိ+စတ္တာလီသံ=ဒွါစတ္တာလီသံ။ ဒွိ+ ပညာသံ=ဒွါပညာသံ။ မောဂ်။၃။၉၇။ (ဂ) ဓာတ်၏အစိတ် ဣသရမှ ပြောင်းလဲလာသော အာသရ။ ဣသု+အ=အာသာ။ ဓာန်၊ဋီ။ ၁၆၂။ နိ+သိ+တွာ = နိဿာယ။ ရှူ။နှာ- ၃၉၃။ (၃)(က) ဏ-အနုဗန်ရှိသော ပစ္စည်း ကြောင့် ဥသရမှ ပြောင်းလဲ လာသော အာသရ။ ဥသဘ+ဏ=အာသဘ။ ဥဇု+ဏ =အဇ္ဇဝ(အာ-ကို ရဿ ပြု)။ ကစ္စည်း။၄၀၂။

ရှူ။နှာ-၂၂၇။ နီတိ၊သုတ္တ။၈၅၇။ မောဂ်၊၄။ ၁၂၇။ (ခ) ဒွန္ဒသမာသ်အရာ၌ မာတု-စသည် တို့၏ ဥသရမှ ပြောင်းလဲ လာသော အာ- သရ။ မာတု+ပိတု=မာတာပိတု။ ပိတု+ ပုတ္တ=ပိတာပုတ္တ။ ရှူ။နှာ-၂၀၉။ နီတိ၊သုတ္တ။ ၇၃၆။ မောဂ်၊၃။၆၄-၅။ (၄) ဩသရမှ ပြောင်းလဲလာသော အာသရ။ ဝိဝဋ္ဋစ္ဆဒေါ =ဝိဝဋ္ဋစ္ဆဒါ။ နီတိ၊သုတ္တ၊၁၇၆။ သီ၊ဋီ၊သစ်။ ၂။၂၄၃။ ဒီ၊ဋီ၊၂။၃၆။ (သို့သော် နီတိ၊ သုတ္တ။၇၃၂-၌ သမာသ်၏အဆုံး အာပစ္စည်း ဟု ဆိုသည်)။ (၅) နံ-ဝိဘတ်ကြောင့် တ- သဗ္ဗနာမ်ပုဒ်မှ ပြောင်းလဲလာသော အာသရ။ တာသံ=အာသံ။နီတိ၊သုတ္တ။၃၆၈။ (၆) ဥန- သဒ္ဒါမှပြောင်းလဲလာသော အာသရ။ သုန= သာ။ အာ၂-(၄)ကြည့်။ ဤသို့ စသည်ဖြင့် သဒ္ဒါအစီအရင်ဖြင့် ပြောင်းလဲလာသော အာ- သရတို့မှာ များစွာပင် ရှိပေသည်။ (၇) လာသော (အာဂုံ) အာသရ။ တထဂဒ= တထာဂတ။ သီ၊ဋီ၊သစ်၊၁။၃၁၅။ ဇာယရေ= အာဇာယရေ။ ပူရတိ=အာပူရတိ။ နိရုတ္တိ- ဒီပနီ။၂၄။

အာ၃ (ဗျ) ဥပသာရပုဒ် ၂၀-တို့တွင် တပုဒ် လည်းဖြစ်, နိပါတ်ပုဒ်လည်း ဖြစ်သည်။ (၁) ရှေးရှုသည်၏အဖြစ်၊ ရှေးရှုခြင်း=အဘိမုခ- ဘာဝ။ အာကစ္ဆန, အာတာပန(မူလဋီ၊၁။ ၆၂။) အာနမန (သာရတ္ထ၊၂။၁၉၆။ ဝိသုဒ္ဓိ၊ ဋီ၊၁။၃၂၅), အာလောကိတ (ရှင်း-၃၇၄) စသည် ကြည့်။ (၂) အထက်၌ပြုခြင်း=ဥဒ္ဓ- ကမ္မ။ ဥဒ္ဓကမ္မေ အာရောဟတိ။ ရှူ။နှာ-၁၃၀။ နီတိ၊သုတ္တ။နှာ-၃၆၁။ (၃) ပိုင်းခြားခြင်း = မရိယာဒ။ အာပါဠလိပုတ္တံ (အာပါဠလိ- ပုတ္တာ) ဝုဋ္ဌော ဒေဝေါ။ သာရတ္ထ၊၁။၃၀၆။ ဒီ၊ဋီ၊၃။၁၉၀။ မ၊ဋီ၊၁။၁၄၃။ အံ၊ဋီ၊၂။၈၆။ မူလဋီ၊၁။၅၂။ (၄) မြန်နှံ့ရှိဖြစ်ခြင်း=အဘိ- ဝိဓိ။ အာဘဝဂ္ဂံ (အာဘဝဂ္ဂါ) ဘဂဝတော ယသော ပဝတ္တတိ။ သာရတ္ထ၊၁။၃၀၆-၇။ ဒီ၊

ဋ္ဌီ၊၃။၁၉၀။ မ၊ဋ္ဌီ၊၁။၁၄၃။ အံ၊ဋ္ဌီ၊၂။၈၆။ မူလဋီ၊၁။၅၂။(အာပါဠလိပုတ္တံ၊ ပါဋလိပုတ်–တိုင်–ရောက်–ဆိုက်–ထိ–အောင် (မရိယာဒ)။ ပါဋလိပုတ်တပြည်လုံးအနှံ့ (အတိဝိဓိ)။ ဒေဝေါ၊သည်။ ဝုဋ္ဌော၊၏။ နီတိ၊ သုတ္တ၊သျ၊၁။၄၄၄။) အာသဝ-လည်း ကြည့်။ (၅) ရောက်ခြင်း=ပတ္တိ။ ပတ္တိယံ အာပတ္တိမာပန္နော။ ရူ။နှာ-၁၃၀။ နီတိ၊သုတ္တ။ နှာ-၃၆၁။ (၆) အလိုရှိ–လိုချင်–ခြင်း=ဣစ္ဆာ။ ဣစ္ဆာယံ အာကင်္ခါ။ ရူ။နှာ-၁၃၀။ နီတိ၊ သုတ္တ။နှာ-၃၆၁။ (၇) ပွေ့ပိုက်–လည်ဖက်–ခြင်း = ပရိဿဇန။ ပရိဿဇနေ အာလိင်္ဂနံ။ ရူ။နှာ-၁၃၀။ နီတိ၊သုတ္တ။နှာ-၃၆၁။ (၈) အဦးအစ, အစအမူ=အာဒိကမ္မ။ အာဥပနာ (=အဥ္ပနာ), အာစိက္ခတိ, အာလပနာ, အာသေဝတိ,အာသေဝနာ-တို့ ကြည့်။ (၉) ရိုသေခြင်း အာဒရ။ အာဥပနာ (=အဥ္ပနာ) ကြည့်။ (၁၀) ယူခြင်း = ဂဟဏ။ ဂဟဏေ အာဒီယတိ၊ အာလမ္ဗတိ။ ရူ။နှာ-၁၃၀။ နီတိ၊ သုတ္တ။ နှာ-၃၆၁။ (၁၁)နေခြင်း =နိဝါသ။ နိဝါသေ အာဝသထော။ ရူ။နှာ-၁၃၀။ နီတိ၊ သုတ္တ။နှာ။၃၆၁။ (၁၂) ခေါ်ဝေါ်ခြင်း=အဝှါန။ အဝှါနေ အာမန္တေသိ။ ရူ။နှာ-၁၃၀။ နီတိ၊သုတ္တ။ နှာ-၃၆၁။ (၁၃) အနီးအပါး=သမီပ။ သမီပေ အာသန္နံ။ ရူ။ နှာ-၁၃၀။ နီတိ၊သုတ္တ။ နှာ-၃၆၁။ (၁၄) နှောင်ဖွဲ့ခြင်း=ဗန္ဓန။ ဗန္ဓနေ အာဗန္ဓနံ။ သူစိ။၅၀။ (၁၅) ထက်ဝန်း ကျင်=သမန္တ။ အဿမ-ကြည့်။ (၁၆) လွန်ကဲပြင်းထန်ခြင်း =ဘုသ။ အာဂဒန (သီ၊ဋ္ဌီ၊သစ်၊၁။၃၁၅), အာယတနစရိယာ,အာယာပေတိ(ပဋိသံ၊ဋ္ဌ၊၂။၁၄၀) ကြည့်။ (၁၇) ထက်ဝက်၊တဝက်= ဥပဍ္ဎ။ အာမတ (ဒီ၊ဋ္ဌီ၊၂။၃၅၃)ကြည့်။ (၁၈) လာ–လာခဲ့–လော့=အာဂစ္ဆ။ အာယာမ (သာရတ္ထ၊၁။၄၅၆။ ဒီ၊ဋ္ဌီ၊၂။၁၃၆) ကြည့်။ (၁၉) တိုးပွါး–ကြီးပွါး – ခြင်း = သံဝဍ္ဎ။ အာသာဠှိကာ (အံ၊ဋ္ဌီ၊၃။၃၆၄)ကြည့်။ (၂၀) ရည်ရွယ်–ရည်စူး – ခြင်း = အာဒိသန။ အာဒေဝ (ပဋိသံ၊ဋ္ဌ၊၁။၁၄၃) ကြည့်။ (၂၁) အဖန်ဖန်၊အထပ်ထပ် = ပုနပ္ပုန။ အာလယ (ခန်၊ဋ္ဌီ။၁၆၃)ကြည့်။(၂၂) အနည်းငယ်= ဤသံ။ အာမဏ္ဍ (ခန်၊ဋ္ဌီ။ ၅၆၆) ကြည့်။ (၂၃)အောက်မေ့ခြင်း=အနုဿရဏ။ အာဟု မေ ဣတ္ထိဘူတာယာတိ ဝါ ပါဌော၊ တတ္ထ အာတိ အနုဿရဏတ္ထေ နိပါတော။ ပေတ၊ဋ္ဌ။၁၅၃။ (၂၄) အမျက်ထွက်ခြင်း=ကောဓ။ အာသဇ္ဇ ခေါ ဥဿာမိ, အာဿာတနန္တိ အာဒီသု ကောဓေ။ သူစိ။၅၁။ (၂၅) ဝမ်းမြောက်ခြင်း = မုဒိတာ။ အာသိံ သော အာသိံ သနာတိ အာဒီသု မုဒိတာယ။ သူစိ။ ၅၁။ (၂၆) နှိပ်စက်ခြင်း = အဋ္ဋ, ပီဠိတ။ အာဂု, အာပဒါ,အာပန္န (ခန်၊ဋ္ဌီ။၈၄၊၇၄၃) တို့ ကြည့်။ (၂၇) ထူးခြားခြင်း၊ အထူး= ဝိသေသ။ အာဒေဝနေယျောတိ ဝိသေသေန ဒေဝနီယော။ မဟာနိ၊ဋ္ဌ။၄၀၈။ (၂၈) မိမိကိုယ်ကို ဆောင်ခြင်း = အတ္တုပနယန။ အတ္တုပနာယိကာ လပနာတိ အာလပနာ။ အဘိ၊ဋ္ဌ၊၂။၄၆၄။ ဝိသုဒ္ဓိ၊၁။၂၆။ မဟာနိ၊ဋ္ဌ။ ၃၇၀။ (၂၉) ဝေးခြင်း၊ အဝေး = ဒူရ။ အာရကာတိ ဒူရတော ရကော။ မဟာနိ၊ ဋ္ဌ။၁၇၄။ (၃၀) ရှေ့=ပုရ။ အာလောကိတံ နာမ ပုရတော ပေက္ခနံ။ မဟာနိ၊ဋ္ဌ။၄၀၇။ (၁)အနက်လည်း ကြည့်။ (၃၁) အောက်သို့ သက်ဆင်းခြင်း=အဓောဂမန။ အာသဝန္တိတိ အဓောဂါမိနော ဟုတွာ သဝန္တိ။ စူဠနိ၊ဋ္ဌ။၂။ (၃၂) နောက်=ပစ္ဆာ။ အာနမနာတိ ပစ္ဆတော နမနာ။ ပဋိသံ၊ဋ္ဌ၊၂။၁၁၃။ (၃၃) လာ၍=အာဂန္တွာ။ အာယာဂေါတိ အာယဇိတဗ္ဗော၊ တတော တတော အာဂမ္မ ဝါ ယဇိတဗ္ဗောတိ အာယာဂေါ။ သုတ္တနိ၊ဋ္ဌ၊၂။ ၁၃၈။ အာဝသထ (ဒီ၊ဋ္ဌီ၊၂။ ၁၃၆) လည်း ကြည့်။ (၃၄) မြဲမြံခြင်း = ဒဠှ။ အာ ဗာဠှ

ဝိယ မိယတိတိ အာခါနန္တိ အာဟ ဒင့် သဒ္ဒေါ ဥပိတန္တိ။ ဒီ၊ဋီ၊၃။ ၂၀။ (၃၅) ဆွဲငင်ခြင်း= အာကစ္စန။ အာကမိတွာ ဂဟဏံ အာဒါနံ။ မူလဋီ၊၂။၉၄။ (၃၆) မှီခြင်း = နိဿယ။ အာဝသိံသူတိ နိဿာယ ဝသိံသု။ (၃၇) မြတ်သော၊ အမြတ်၊ လကျာ = ပဒက္ခိဏ။ အာဝတ္တာတိ ပဒက္ခိဏာ ဝတ္တာ။ အနုဋီ၊၃။ ၁၆၀။ (၃၈) တင်ခြင်း=အာရောပန။ အာ-မာယိတွာတိ အာရောပနံ ဥပေတွာ။ သံ၊ဋီ၊ ၂။၁၅၈။ (၃၉) ပုဒ်ပြည့်ခြင်း (အနက်ထူး မရှိပုဒ်ပြည့်ရုံမျှဖြစ်ခြင်း)=ပဒပူရဏ။ ယဒါနံ မညတိ ဗာလောတိ အာဒီသု ပဒပူရဏေ။ တတ္ထ ဟိ ယံ အာနံ မညတိတိ ပဒစ္ဆေဒေါ။ သူစိ။၅၁။ ယဒါနံ မညတိတိ ယံ အာနံ မည-တိတိ ပဒစ္ဆေဒေါ။ အာတိ နိပါတမတ္တံ။ နီတိ၊ သုတ္တ။နှာ-၃၇၆။ (သို့သော် သံ၊ဋီ၊၁။၃၃၃-၌ ကား ဟေတု အနက်ဟော ယဒါ-သဒ္ဒါဟု ဆိုသည်။) (၄၀) ဤသို့သော၊ ဤမည်သော =ဣမ။ (အာကာရဏ-ကြည့်။)

**အာကင်္ခတိ** (ကြိ) [အာ+ကခိ(=ကင်္ခ)+အ+တိ] အလိုရှိ၏၊ လိုချင်၏၊ တောင့်တ၏။ သစေ ဥပဇ္ဈာယော ပစ္ဆာသမဏံ အာကင်္ခတိ။ ဝိ၊၃။၅၈။ (—ဒုင်း-၉၈-၉၊၁၄၅၊၁၄၆။ ဒီ၊၁။ ၁၆၅။ ဒီ၊၃။၁၁၁။ မ၊၂။၅၄။ မ၊၃။၁၉၅။ သံ၊၂။ ၂၆၀။ သံ၊၃။ ၂၅၈။ သုတ္တနိ။၃၆၃။ ဝိ၊ဋ္ဌ၊၁။၅၁၊၂၉။ အံ၊ဋ္ဌ၊၁။၅၀။ အံ၊ဋီ၊၁။၉၅၊ ၁၀၅။ မ၊ဋီ၊၃။၁၇၀။ ဝိသုဒ္ဓိ၊ဋီ၊၂။၅၀။) **အာကင်္ခတိ** — ဝိ၊ဋ္ဌ၊၁။၁၃၀။ **အာကင်္ခသိ**— ဝိ၊၃။၃၉။ မ၊၂။၃၆၄။ သံ၊၁။၂၀၉။ သံ၊ဋ္ဌ၊၁။ ၂၇၈။ ဓမ္မ၊ဋ္ဌ၊၁။၁၉။ ယဒါကင်္ခသိ။ ဒီ၊၁။ ၄၈။ မ၊၁။ ၂၉၂။ သံ၊၁။ ၂၀၉။ ဒီ၊ဋ္ဌ၊၁။၁၄၁။ မ၊ဋ္ဌ၊၂။၁၇၅။ **အာကင်္ခထ** — ဝိ၊ဋ္ဌ၊၁။၆၂။ **အာကင်္ခါမိ**—ဝိ၊၃။၉၉။ သံ၊၁။၄၁၂။ အံ၊၂။ ၄၄၇။ မ၊ဋ္ဌ၊၃။၇၄။ အံ၊ဋ္ဌ၊၁။၁၅၁။ ဝိ၊ဋ္ဌ၊၁။ ၅။ ခုဒ္ဒကာ၊ဋ္ဌ။၇၇။ သာရတ္ထ၊၁။၃၆။ **အာ-ကင်္ခါမ** — အံ၊၃။၉၀။ အံ၊ဋီ၊၁။၁၁၄။ **အာ-ကင်္ခေယျ**—ဒီ၊၁။၇၄၊၁၉၉။ မ၊၁။၃၉။ အံ၊၃။ ၃၆၁။ ဣတိဝုတ်၊ဋ္ဌ။၁၀၄၊၂၂၉။ ယဒိ အာ-ကင်္ခေယျ ယဒိ ဣစ္ဆေယျ။ မ၊ဋ္ဌ၊၁။၁၆၁။ အံ၊ဋ္ဌ၊၃။၃၂၁။ (—မ၊ဋီ၊၃။၁၈၂။ သံ၊ဋီ၊၂။ ၅၁၈။ အံ၊ဋီ၊၃။၃၄၃။ ဝိသုဒ္ဓိ၊ဋီ၊၂။၅၀။) **အာကင်္ခိဿသိ**—အံ၊၃။၆၃။

**အာကင်္ခန္တ** (တိ) [အာ+ကခိ (=ကင်္ခ)+အ+ အန္တ။ ထိ-၌ အာကင်္ခန္တီ] လိုချင်—တောင့်တ —သော၊သူ။ ဣမသ္မိံ ဓမ္မဝိနယေ အာကင်္ခန္တာ ပဗ္ဗဇ္ဇံ။ ဒီ၊၂။၁၂၆။ တံ ဌာနန္တရံ အာ-ကင်္ခန္တိ။ သံ၊ဋီ၊၁။၁၈၁။ (—ဓမ္မ။၆၂။ ဓမ္မ၊ဋ္ဌ၊ ၂။၂၄၄၊၃၃၄။ ဣတိဝုတ်၊ဋ္ဌ။ ၃၁၉၊၃၂၀။ ဝိမာန၊ဋ္ဌ။၁၃၅။ ပေတ၊ဋ္ဌ။၂၁၃။ အပ၊ဋ္ဌ၊၂။ ၆၀။ ဇာ၊ဋ္ဌ၊၅။၃၀၃။ ဝိသုဒ္ဓိ၊ဋီ၊၂။၅၂၈။)

**အာကင်္ခ (ခါ) ပဋိဗဒ္ဓ** (တိ) [အာကင်္ခ (ခါ) + ပဋိဗဒ္ဓ] အလို— ဆန္ဒ— နှင့် ဆက်စပ်သော။ သဗ္ဗေ ဓမ္မာ ဗုဒ္ဓဿ ဘဂဝတော အာဝဇ္ဇန-ပဋိဗဒ္ဓါ အာကင်္ခပဋိဗဒ္ဓါ မနသိကာရပဋိဗဒ္ဓါ။ စူဠနိ။၁၇၆။ ပဋိသံ။၃၇၆။ ဣတိဝုတ်၊ဋ္ဌ။၁၃၆။ အာကင်္ခပ္ပဋိဗဒ္ဓါတိ (အာကင်္ခနပ္ပဋိဗဒ္ဓါတိ၊ သီ) ရုစိအာယတ္တာ။ ပဋိသံ၊ဋ္ဌ၊၂။၂၅၇။ ဈာနာဒီ-သု အာကင်္ခါပဋိဗဒ္ဓေါ ပရမော အာဝဇ္ဇနာဒိ-ဝသီဘာဝေါ။ ဣတိဝုတ်၊ဋ္ဌ။၁၄၄။ အာကင်္ခ-ပဋိဗဒ္ဓံ ဗုဒ္ဓဿ ဘဂဝတော ဉာဏံ။ နေတ္တိ၊ဋီ။ ၉၆။

**အာကင်္ခ(ခါ)ပ(ပ္ပ)ဋိဗဒ္ဓဝုတ္တိ** (တိ) [အာကင်္ခ-(ခါ) ပဋိဗဒ္ဓ+ဝုတ္တိ] အလိုဆန္ဒနှင့် စပ်သော ဖြစ်ခြင်းရှိသော။ သဗ္ဗဓမ္မာဝဗောဓနသမတ္ထ-ဿ အာကင်္ခါပဋိဗဒ္ဓဝုတ္တိနော အနာဝရဏ-ဉာဏသင်္ခါတဿ သဗ္ဗညုတညာဏဿ အဓိဂ-မေန ဒဿိတော။ ဣတိဝုတ်၊ဋ္ဌ။၁၃၄။ ထေရ၊ ဋ္ဌ၊၂။၂၇၀။ သာရတ္ထ၊၁။၂၃၃။

**အာကင်္ခမာန** (တိ) [အာ+ကင်္ခ+အ+မာန] လိုချင် — တောင့်တ — သော၊ မြတ်နိုးသော၊ သူ။ ပုညံ အာကင်္ခမာနေန။ သံ၊၁။၁၇။ ပုဗ္ဗ-

စေတနာဒိဘေဒံ ပုညံ ဣစ္ဆာမာနေန။ သံ၊ ဋ္ဌ၊၁။၅၆။ အာကင်္ခမာနာ သောတ္တာနံ။ ခုဒ္ဒက။၃။ သုတ္တနိ။၃၇။ အာကင်္ခမာနာတိ ဣစ္ဆမာနာ ပတ္ထယမာနာ ပိဟယမာနာ။ ခုဒ္ဒကာ၊ဋ္ဌ။၁၀၃။ သုတ္တနိ၊ဋ္ဌ၊၂။၉။ (—ဝိ၊၁။ ၃၀၄၊၃၄၀၊၃၇၇။ ဝိ၊၄။၇၃။ ဝိ၊၅။၂၂၀။ ဒီ၊ ၂။၇၉။ ဒီ၊၃။၆၄။ အံ၊၁။၂၂၉၊၂၇၈။ အံ၊၂။ ၂၂၉။ အံ၊၃။၁၂၉။ ဝိ၊ဋ္ဌ၊၂။၂၀၊၃၀၀။ ဒီ၊ဋ္ဌ၊ ၃။၄၄။ သံ၊ဋ္ဌ၊၁။၂၄၃။ စသည်)

**အာကင်္ခဝဂ္ဂ** (ပု) [အာကင်္ခ+ဝဂ္ဂ] အာကင်္ခဝဂ်၊ အာကင်္ခသုတ်စသော သုတ်ဆယ်ခုအပေါင်း။ အင်္ဂုတ္တရနိကာယ၊ဒသကနိပါတပါဠိ၊၂-ပဏ္ဏာသက၊ ၃-ဝဂ်။ အံ၊၃။၃၆၀-၃၇၆။

**အာကင်္ခသုတ္တ** (န) [အာကင်္ခ+သုတ္တ] အာကင်္ခသုတ်။ အင်္ဂုတ္တရနိကာယ၊ ဒသကနိပါတပါဠိ၊ ၂-ပဏ္ဏာသက၊ ၃-ဝဂ်၊ ၁-သုတ်။ အံ၊၃။၃၆၀-၂။

**အာကင်္ခါ** (ထီ) [အာ+ကင်္ခ+အ။ ကင်္ခ ဣစ္ဆာယံ၊ အ။] အလို၊ တပ်မက်—စွဲလမ်း—ခြင်း။ အာကင်္ခါ ရုစိ ဝုတ္တာ သာ။ ဓာန်။ ဓာန်ဋီ။၁၆၃။

**အာကင်္ခါယတ္တဝုတ္တိက** (တိ) [အာကင်္ခါ+အာယတ္တ+ဝုတ္တိ+က] လိုချင်—တောင့်တ—ခြင်းနှင့် စပ်သော ဖြစ်ခြင်းရှိသော။ အာဝဇ္ဇနမတ္တေနေဝ သရတိ အာကင်္ခါယတ္တဝုတ္တိကတ္တာ။ နေတ္တိဋီ။၉၆။

**အာကင်္ခိတ** (တိ) [အာ+ကင်္ခိ (ကင်္ခ) + တ] လိုချင်—တောင့်တ—အပ်သော။ ယံ အာကင်္ခိတံ၊ ယံ အဓိပ္ပေတံ၊ ယံ အဘိပတ္ထိတံ။ ဒီ၊၁။ ၁၁၃။ ဒီ၊၂။၁၉၀။ (—မူလဋီ၊၂။၁၅၈။)

**အာကင်္ခိတနိပ္ဖတ္တိ** (ထီ) [အာကင်္ခိတ+နိပ္ဖတ္တိ] အလိုရှိအပ်သော အကျိုး၏ ပြီးစီးခြင်း။ ပဋိညာ, အာကင်္ခိတနိပ္ဖတ္တိ, ပစ္ဆာ ဓုရနိက္ခေပေါ, အနုညာတကာရဏာဘာဝေါ။ ကင်္ခါ။ ၃၄၇။

**အာကင်္ခိတဗ္ဗ** (တိ) [အာ+ကင်္ခိ (ကင်္ခ)+တဗ္ဗ] လိုချင်—တောင့်တ—အပ်သော။ တံ အာကင်္ခိတဗ္ဗတ္တာ ဒေသကံ ဒေသနာယ ပယောဇေတိ။ သံ၊ဋီ၊၁။၅၁။ အံ၊ဋီ၊၁။၅၃။

**အာကင်္ခိယ** (တိ) [အာ+ကင်္ခ+ဏျ] လိုလား—တောင့်တ — အပ်သော။ သမန္နာဂတော ဟောတိ ဣမေဟိ စတူဟိ အာကင်္ခိယေဟိ ဌာနေဟိ။ သံ၊၃၊၃၁၀။

**အာကင်္ခီ** (တိ) [အာ+ကင်္ခိ(ကင်္ခ)+ဏီ] လိုချင်—တောင့်တ—သော၊သူ။ တသ္မာ သမ္ပဒမာကင်္ခီ၊ သမ္ဗုဒ္ဓတ္တုမ ပုဂ္ဂလော။ အံ၊၃။၇၀။

**အာကင်္ခုပ္ပါဒန** (န) [အာကင်္ခါ+ဥပ္ပါဒန] လိုချင်—တောင့်တ—ခြင်းကို ဖြစ်စေခြင်း။ အဘိရုစိဝသေန တတ္ထ အာကင်္ခုပ္ပါဒနတော။ သံ၊ ဋီ၊၂။၁၄၇။

**အာကင်္ခေယျသုတ္တ** (န) [အာကင်္ခေယျ+သုတ္တ] အာကင်္ခေယျသုတ်။ မဇ္ဈိမနိကာယ မူလပဏ္ဏာသပါဠိ၊ ၁-ဝဂ်၊ ၆-သုတ်။ မ၊ ၁၊ ၃၉။

**အာကဍ္ဎတိ** (ကြိ) [ အာ + ကဍ္ဎ + အ + တိ ] ဆွဲငင်၏၊ မိမိသို့ ရှေးရှုဆွဲငင်၏။ ဘိက္ခူ စ န....အာကဍ္ဎတိ ပဋိကဍ္ဎတိ။ ဝိ၊၁။၁၇၅။ (—မိလိန္ဒ။၁၃၈။ မ၊ဋ္ဌ၊၂။၂။ အဘိ၊ဋ္ဌ၊၁။၂၀၇။ ဇာ၊ဋ္ဌ၊၁။၄၄၁။) **အာကဍ္ဎန္တိ**—ဝိ၊ဋ္ဌ၊၄။၁၁၅။ သံ၊ဋ္ဌ၊၃။၁၁၂။ အံ၊ဋ္ဌ၊၃။၃၁၀။ အဘိ၊ဋ္ဌ၊၁။ ၃၀၂။ **အာကဍ္ဎာမိ** — ဇာ၊ဋ္ဌ၊၃။၂၇၉။ **အာကဍ္ဎာဟိ**—ဇာ၊ဋ္ဌ၊၁။၃၂၉။ **အာကဍ္ဎေယျ** —မ၊၁။၂၉၀။ သံ၊၁။၃၃၅။ မ၊ဋ္ဌ၊၂။၁၇၃။ အဘိ၊ဋ္ဌ၊၁။၃၀၂။ **အာကဍ္ဎေယျုံ**—သံ၊ဋ္ဌ၊၃။ ၁၁၀။ **အာကဍ္ဎိ** — ဇာ၊ဋ္ဌ၊၄။၃၃၆၊၄၁၅။ **အာကဍ္ဎိဿန္တိ**—ဝိ၊၂။၁၈၈။ **အာကဍ္ဎိဿာမိ** —မ၊၁။၂၉၁။

**အာကဍ္ဎန** (န၊ထိ) [အာ+ကဍ္ဎ+ယု] ဆွဲငင်— မိမိသို့ ရှေးရှုဆွဲငင် — ခြင်း။ ဩလင်္ဃနာ၊ ဥလ္လင်္ဃနာ၊ အာကဍ္ဎနာ၊ ပဋိကဍ္ဎနာ။ ဝိ၊၁။

၁၇၄။ အာကဍ္ဎနာယ အတ္တနော အဘိမုခံ အာကဍ္ဎန္တော ယာဝ န မုဉ္စတိ၊ တာဝ ကောဝ အာပတ္တိ။ ဝိ၊ဋ္ဌ၊၂။၁၂၂။ အတ္တနော အဘိမုခံ ကဍ္ဎနံ အာကဍ္ဎနံ။ မူလဋီ၊၂။၆၂။ (-မိလိန္ဒ။ ၃၇၄။ မ၊ဋ္ဌ၊၄။၁၀၁။ သံ၊ဋ္ဌ၊၃။၃၀၅။ ဣတိ-ဝုတ်၊ဋ္ဌ။၂၂၀။ ဇာ၊ဋ္ဌ၊၇။၄၈။ မ၊ဋီ၊၃။၂၃၊ ၃၁၄။ သံ၊ဋီ၊၂။၁၅၈။ မူလဋီ၊၁။၅၃၊၉၆။)

**အာကဍ္ဎနက** (တိ) [အာကဍ္ဎန+က] ဆွဲငင်-ရှေးရှုဆွဲငင်-တတ်သော၊ အောက်သို့ဆွဲချ တတ်သော။ စတူသု အပါယေသု အာကဍ္ဎ-နကံ။ သံ၊ဋ္ဌ၊၁။၁၃၅။

**အာကဍ္ဎနဋ္ဌ** (ပု) [အာကဍ္ဎန+အတ္ထ] ဆွဲငင်ခြင်း-ဆောင်ယူခြင်း-အနက်သဘော။ အာ-ကဍ္ဎနဋ္ဌေန သီဃသောတာ သရိတာ ဝိယာတိ သရိတာ။ နေတ္တိ၊ဋ္ဌ။၈၆။ အာကဍ္ဎနဋ္ဌေနာတိ အဝဟရဏဋ္ဌေန။ နေတ္တိ၊ဋီ။၅၈။

**အာကဍ္ဎနယန္တ** (န) [အာကဍ္ဎန+ယန္တ] ရေကို ဆွဲငင်ဆောင်ယူကြောင်းဖြစ်သော-ယန္တရား-စက်။ ဒီဃဝရတ္တာဒီဟိ အာကဍ္ဎနယန္တံ။ ဝိ၊ဋ္ဌ၊၄။၅၁။ အာကဍ္ဎနယန္တံ အာကဍ္ဎိယမာနံ ကူပဿ ဥပရိဘာဂေ ပရိဗ္ဘမတိ။ ဝဇိရ။ ၅၂၄။

**အာကဍ္ဎနယုတ္တ** (တိ) [အာကဍ္ဎန+ယုတ္တ] ဆွဲငင်ခြင်းနှင့် ယှဉ်သော။ သပ္ပဋိမာသောတိ အာ-ကဍ္ဎနယုတ္တောတိ အဓိပ္ပါယော။ ဝဇိရ။၅၃၆။

**အာကဍ္ဎန္တ** (တိ) [အာ + ကဍ္ဎ + အ + အန္တ] ဆွဲငင်သော၊ ဆွဲယူသော၊သူ။ အတ္တနော အဘိမုခံ အာကဍ္ဎန္တော။ ဝိ၊ဋ္ဌ၊၁။၂၇၃။ ဝိ၊ဋ္ဌ၊၂။၁၂၂။ (-ဝိ၊ဋ္ဌ၊၁။၂၇၆၊၂၈၃၊၂၈၆၊၂၉၁။ မ၊ဋ္ဌ၊၃။၁၈။ သံ၊ဋ္ဌ၊၃။၉၃။ အဘိ၊ဋ္ဌ၊၁။၁၆။ ဓမ္မ၊ဋ္ဌ၊၂။၁၃၁။ ဇာ၊ဋ္ဌ၊၂။၁၇။ ဇာ၊ဋ္ဌ၊၇။၂၃၅။ ဝိမတိ၊၁။၂၆၀။ သံ၊ဋီ၊၂။၃၃၇။)

**အာကဍ္ဎမာန** (တိ) [အာ+ကဍ္ဎ+အ+မာန] ဆွဲငင်သော၊ ဖြစ်စေသော။ ဝိစိကိစ္ဆာသဟ-ဂတေ....ပဋိသန္ဓိံ အာကဍ္ဎမာနေ။ အဘိ၊ဋ္ဌ၊၁။၃၀၂။

**အာကဍ္ဎမာနာကာရ** (တိ) [ အာကဍ္ဎမာန+အာကာရ ] ဆွဲငင်သော အခြင်းအရာ။ ပါဒေသု ဗဒ္ဓပါသသကုဏော ဝိယ ပဉ္စော-ရမ္ဘာဂိယသံယောဇနာနိ ဟေဋ္ဌာ အာကဍ္ဎ-မာနာကာရာနိ ဟောန္တိ။ သံ၊ဋ္ဌ၊၁။၂၃။

**အာကဍ္ဎယမာန** (တိ) [အာ+ကဍ္ဎ+ဏယ+မာန] ဆွဲငင်သော၊ အထ နံ သာမိနော မနုဿာ အာကဍ္ဎယမာနာ။ မိလိန္ဒ။၁၅၅။

**အာကဍ္ဎိတ** (တိ) [အာ+ကဍ္ဎ+တ] ဆွဲငင်အပ်သော၊သူ။ အာကဍ္ဎိတော သဟသာ တေဟိ ဒေဝ။ ဇာ၊၁။၃၃၇။ စရိယာ၊ဋ္ဌ။၁၈၇။ (-ဇာ၊ဋ္ဌ၊၇။၄၈။)

**အာကဍ္ဎိတဋ္ဌာန** (န) [အာကဍ္ဎိတ+ဌာန] ဆွဲငင်အပ်သောအရပ်။ ပါဒေန အာကဍ္ဎိတဋ္ဌာနံ ဝါ သီသေန ပဟဋဋ္ဌာနံ ဝါ န ပညာယတိ။ မ၊ဋ္ဌ၊၃။၁၄၇။

**အာကဍ္ဎိတဗ္ဗ** (တိ) [အာ+ကဍ္ဎ+တဗ္ဗ] ဆွဲငင်အပ်သော။ သတ္တဟိ ယုဂေဟိ အာကဍ္ဎိတဗ္ဗေ သကဋေ။ အဘိ၊ဋ္ဌ၊၁။၁၂၅။ (-ဇာ၊ဋ္ဌ၊၇။၄၈။)

**အာကဍ္ဎိတဗ္ဗသကဋ** (ပု၊န) [ အာကဍ္ဎိတဗ္ဗ+သကဋ ] ဆွဲငင်အပ်သောလှည်း။ သတ္တဟိ ယုဂေဟိ အာကဍ္ဎိတဗ္ဗသကဋမေတ္တ အဋ္ဌ-ကထာယံ နိဒ္ဒိသတိ။ ဝိသုဒ္ဓိ၊ဋီ၊၂။၉၉။

**အာကဍ္ဎိတသရီရ** (တိ) [အာကဍ္ဎိတ+သရီရ] ဆွဲငင်အပ်-ဆန့်အပ်-သော ကိုယ်ရှိသော။ ရုက္ခသာခါယ စ ဝေတ္တလတာယ စ ဝီဏာယ ဘမရတန္တိ ဝိယ ဝိတတံ အာကဍ္ဎိတသရီရံ။ ဇာ၊ဋ္ဌ၊၃။၃၅၃။

**အာကဍ္ဎိတဟဒယ** (တိ) [အာကဍ္ဎိတ+ဟဒယ] ဆွဲငင်အပ်သော - စိတ်-နှလုံး- ရှိသော၊

သူ။ စိတ္တေန ရူပနိန္နာ ရူပပေါဏာ ရူပပဗ္ဘာရာ ရူပဒဿနပ္ပသုတာ ရူပေန အာကာသိုတဟဒယာ။ အံ၊ဋ္ဌ၊၁။၄၉။

**အာကာသိုတုံ** (ကြိ၊ဝိ) [အာ+ကစု+တုံ] ဆွဲငင်ခြင်းငှါ။ စေတနာယ ပဋိသန္ဓိံ အာကာသိုတုံ အသမတ္ထော။ ဝိ၊ဋ္ဌ၊၂။၁၀၉။ (−ဝိ၊ဋ္ဌ၊၃။၃၁။ ဝိ၊သင်္ဂဟ။ဂ၁။ မ၊ဋ္ဌ၊၃။၄၀။)

**အာကာသိုတွာ** (ကြိ၊ဝိ) [ အာ+ကစု+တွာ ] ဆွဲငင်၍။ သော ဘိက္ခု သံဃမဇ္ဈမ္ဟိ အာကာသိုတွာ ဝတ္တဗ္ဗော။ ဝိ၊၁။၂၆၆။ (−ဝိ၊ဋ္ဌ၊၂။၁၉၄၊၂ဂ၉။ အံ၊ဋ္ဌ၊၂။၁၀၄။ သံ၊ဋ္ဌ၊၂။၂၆၁။ အံ၊ဋ္ဌ၊၂။၂၉၁။ ဇာ၊ဋ္ဌ၊၁။၇၅။ ဇာ၊ဋ္ဌ၊၆။ ၁၃၉။ သံ၊ဋ္ဋီ၊၂။၁၅ဂ၊၂၃၃၊၃၇၃။ မူလဋီ၊ ၂။၉၄။)

**အာကာသိုတွာန** (ကြိ၊ဝိ) [အာ+ကစု+တွာန] ဆွဲငင်၍။ အာကာသိုတွာန ဣသယော၊ စောဒယိဿန္တိ တံ သဒါ။ အပ၊၁။၇၅။ ထေရ၊ဋ္ဌ၊၁။၂၄။

**အာကာသို(သိုံ)ယတိ** (ကမ္မ၊ကြိ) [အာ+ကစု+ ယ+တေ] ဆွဲငင်အပ်၏။ န တတ္ထ သုခါဘိသင်္ဂေန အကာသို(သိုံ)ယတိ။ ဝိ၊ဋ္ဌ၊၁။၁၂၂။ အဘိ၊ဋ္ဌ၊၁။၂၂၀။ (−မ၊ဋ္ဌ၊၄။၁၇၂။)

**အာကာသိုယန္တ** (တိ) [အာ+ကစု+ယ+မာန] ဆွဲငင်အပ်သော။ ဥပရိ သာခါဇဋ္ဌာဇဋိတဿ အာကာသိုယန္တဿ ယာဝ ပဠပဗ္ဗံ တာဝ လဟုကံ တော။ မိလိန္ဒ။၁၁၀။

**အာကာသို(သိုံ)ယမာန** (တိ) [အာ+ကစု+ယ+ မာန] ဆွဲငင်အပ်သော။ မနုဿေဟိ အာကာသိုယမာနာ ဂစ္ဆတိ။ ဝိ၊၂။၂၉၀။ ဝိ၊ဋ္ဌ၊၃။ ၁ဂ၁။ ဝိ၊ဋ္ဌ၊၂။၆၉။ ဒီ၊ဋ္ဌ၊၃။၄၄။ မ၊ဋ္ဌ၊၃။ ၂၆၄။ ဇာ၊ဋ္ဌ၊၇။၁၃၉။ ကခါ။၂၉ဂ။

**အာကာသိုယမာနပဋိသန္ဓိက** (တိ) [အာကာသိုယမာန+ပဋိသန္ဓိ+က] ဆွဲငင်အပ်သော ပဋိသန္ဓေရှိသော၊ ပဋိသန္ဓေကို ဖြစ်စေတတ်သော။ အာကာသိုယမာနပဋိသန္ဓိကံ ပါဏာတိပါတကမ္မံ အပ္ပါယုကတ္ထာယ နိယမေတိ။ မ၊ဋီ၊၃။၃၇၅။

**အာကာသိုယမာနလောစန** (တိ) [အာကာသိုယမာန+လောစန] ဆွဲငင်အပ်သော မျက်စိရှိသော၊သူ။ တဿာ ရူပသမ္ပတ္တိယာ အာကာသိုယမာနလောစနော ပဋိဗဒ္ဓစိတ္တော ဟုတွာ။ ဇာ၊ဋ္ဌ၊၂။၁၁၁။

**အာကာသိုယမာနသ** (တိ) [ အာကာသိုယ + မာနသ] ဆွဲငင်အပ်သော စိတ်ရှိသော၊သူ။ ကုဋ္ဌိရော တဿာ ကထယမာနာယ ဣတ္ထိသဒ္ဒေ နိမိတ္တံ ဂဟေတွာ အာကာသိုယမာနသော (ကမ္ပိတမာနသော၊ သီ-မူဋီ) ဟုတွာ။ ဇာ၊ဋ္ဌ၊ ၂။၃၁၀။

**အာကာသိုယမာနဟဒယ** (တိ) [အာကာသိုယမာန+ ဟဒယ] ဆွဲငင်အပ်သော − စိတ် − နှလုံး − ရှိသော။ လာဘတဏှာယ ပန အာကာသိုယမာနဟဒယာ တာသံ ဥပဿယံ အာဂမံသု။ ဝိ၊ဋ္ဌ၊၃။၅၃။ (−ဝိမာန၊ဋ္ဌ။၁၉၂။ ဒီ၊ဋီ၊၃။၅။ သံ၊ဋီ၊၁။၃၀၃။)

**အာကာဓေယျန္တ** (တိ) [အာ+ကစု+ဏေ+အန္တ] (၁) ယူငင်−ဆွဲကိုင်−သော။ (၂) စုတ်ယူ −ငင်စုတ်−သော။ (၁) တံ အာကာဓေယျန္တော ဝိယ ကေတောဘာဂိယံ ကတွာ။ သံ၊ဋ္ဌ၊၃။ ၂၅ဂ။ အာကာဓေယျန္တော ဝိယာတိ နမိတာငွာနတော ပရဘာဂေန အာကာဓေယျန္တော ဝိယ။ သံ၊ဋီ၊၂။၄ဂ၀။ (၂) ဂါဝိယော ဝိယ မုခေန အာဓေယျန္တော ပိဝိတွာ၊ အံ၊ဋ္ဌ၊၃။၅၇။ (−မ၊ဋီ၊၃။၁၂။)

**အာကဏ္ဍပ္ပမာဏ** (န) [အာ+ကဏ္ဍ+ပမာဏ] လည်ချောင်း အတိုင်းအရှည် ( ပမာဏ ) တိုင်အောင်၊ လည်ချောင်း ရောက်အောင်။ တေသု ယေန ကေနစိ ပရိတိတ္တော အာကဏ္ဍပ္ပမာဏံ ဘုဉ္ဇိတွာ ဌိတော။ အံ၊ဋ္ဌ၊၃။၇၀။

**အာကတိ** (ထီ) [အာ+ကရ+တိ] အခြင်းအရာ၊ ဇာတ်။

**အာကတိဂဏ** (ပု) [အာကတိ+ဂဏ] အာကတိ ဂိုဏ်း၊ ရုပ်ပြီးပုံအခြင်းအရာတူသောအားဖြင့် ယူအပ်သော ဇာတ်တူသဒ္ဒါအပေါင်း၊ ရုပ်ပြီးပုံတူသော သဒ္ဒါများ။ (ပိသောဒရသဒ္ဒါနှင့် ရုပ်ပြီးပုံတူသော ဘဂဝါ, မေခလာ, ဝလာဟက, ဇီမူတ-စသော သဒ္ဒါအပေါင်း (မောဂ်၊ ၁။၄၇), နဒီသဒ္ဒါနှင့် ရုပ်ပြီးပုံတူသော မဟီ, ကုမာရီ, တရုဏီ-စသော သဒ္ဒါအပေါင်း (မောဂ်၊၃။၂၇), ဝစ္ဆာယနသဒ္ဒါနှင့် ရုပ်ပြီးပုံတူသော ကစ္စာယန, မောဂ္ဂလ္လာယန, ကဏှာယန-စသော သဒ္ဒါအပေါင်း (ရူ။နှာ-၂၁၉) ကို အာကတိဂိုဏ်းဟု ခေါ်၏။ မောဂ်၊သျှ၊ ၁။နှာ-၂၉၉ ၌ ပုရိသာဒိ, စိတ္တာဒိ, ကညာဒိ စသည်တို့ကိုလည်း အာကတိဂိုဏ်းချည်းဟု မိန့်ဆို၏။) အာကတိဂဏောယံ။ ရူ။ နှာ-၂၁၉။ မောဂ်၊၂။၆၀။ မောဂ်၊၃။၂၇၊၇၂။ ဂေါမဟိံ သာဒယော ဝိယ အာကတိယာ ဂဟေတဗ္ဗော ဂဏော အာကတိဂဏော။ ရူ၊ ဋီ။နှာ-၁၆၂။ အာကတိ ဇာတိ ဝုစ္စတိ, တပ္ပမာနော ဂဏော အာကတိဂဏော သော-ယံ။ ပဥ္စိကာ၊ ၂။၆၀။ ပိသောဒရာဒီနံ သဒ္ဒါနံ အာကတိဂဏဘာဝတော ဝုတ္တံ။ သာရတ္ထ၊ ၁။၃၀၀။ ဝိမတိ၊၁။၅၉။ ဝိသုဒ္ဓိ၊ဋီ၊၁။၂၅၃။

**အာကပ္ပ** (ပု) [အာ+ကပ္ပ+အ] အသွင်အပြင်၊ အမူအရာ၊ သွားလာ ဝတ်စား ဆင်ယင်ပုံ စသော အခြင်းအရာ အမူအရာ။ အာကပ္ပေန ဘိက္ခုဝေ ဣတ္ထိ ပုရိသံ ဗန္ဓတိ။ အံ၊၃။၃၈။ အာကပ္ပေနာတိ နိဝါသနပါရုပနာဒိနာ ဝိဓာနေန။ အံ၊ဋ္ဌ၊၃။၂၁၇။ အာကပ္ပေါတိ ဂမနာဒိအာကာရော။ အဘိ၊ဋ္ဌ၊၁။၃၅၇။ (–အဘိ၊ ဓ။၁၆၈။ အဘိ၊ဝိ။၁၂၉။ ဇာ၊၂။၂၉၁။ မိလိန္ဒ။ ၂၄၉။ မ၊ဋ္ဌ၊၃။၇၂။ အံ၊ဋ္ဌ၊၁။၉၈။ အံ၊ဋ္ဌ၊၃။ ၃၁၃။ ဓမ္မ၊ဋ္ဌ၊၁။၄၆။ ထေရ၊ဋ္ဌ၊၂။၃၅၉။ မ၊ဋီ၊၃။၄၄။ ဇာ၊ဋ္ဌ၊၇။၁၉၇။)

**အာကပ္ပကရဏ** (နု) [အာကပ္ပ+ကရဏ] အသွင် အပြင်ကို ပြုခြင်း။ နာမံ လိင်္ဂံ ပရိက္ခာရံ၊ အာကပ္ပကရဏာနိ စ။ ပကတိဘာဝံ ဝိဇဟိတွာ၊ တဒ္ဒ အညံ အကံသု တေ။ သာရတ္ထ၊ ၁။၁၁၇။

**အာကပ္ပသမ္ပတ္တိ** (ထီ) [အာကပ္ပ+သမ္ပတ္တိ] အသွင် အပြင်–အမူအရာ–၏ ပြည့်စုံခြင်း။ အာကပ္ပသမ္ပတ္တိံ ကတွာ။ ဇာ၊ဋ္ဌ၊၁။၃၄၃။ ဣတရေသံ အာကပ္ပသမ္ပတ္တိယာ ပသန္နတ္တာ စ။ ဝဇီရ။ ၄၁၆။ (–သံ၊ဋီ၊၁။၂၂။)

**အာကပ္ပသမ္ပဒါ** (ထီ) [အာကပ္ပ+သမ္ပဒါ] အသွင် အပြင်–အမူအရာ–၏ ပြည့်စုံခြင်း။ အာကပ္ပသမ္ပဒါ။ ပရိဝါရသမ္ပဒါ။ အံ၊ ၁။၄၀။ အာကပ္ပသမ္ပဒါတိ စီဝရဂ္ဂဟဏာဒီနေ အာကပ္ပဿ သမ္ပတ္တိ။ အံ၊ဋ္ဌ၊၁။၃၈၁။ (–မ၊ဋီ၊ ၃။၁၀။)

**အာကပ္ပသမ္ပန္န** (တိ) [အာကပ္ပ+သမ္ပန္န] အသွင် အပြင်–အမူအရာ–နှင့် ပြည့်စုံသော၊ ရဟန်းကောင်းတို့၏ အသွင်အပြင်နှင့် ပြည့်စုံသော။ သုနိဝတ္ထေန ဘဝိတဗ္ဗံ သုပါရုတေန အာကပ္ပသမ္ပန္နေန။ ဝိ၊ ၂။၁၃၆။ ဒုလ္လဘော အာကပ္ပသမ္ပန္နော၊ ဒုလ္လဘော ဗဟုဿုတော။ အံ၊ ၂။၆၉။ အာကပ္ပသမ္ပန္နောတိ သမဏာကပ္ပေန သမ္ပန္နော။ အံ၊ဋ္ဌ၊၃။၃၀။ (–အံ၊ ၂။ ၂၂၈။ မ၊ဋ္ဌ၊၁။၉၆။ အံ၊ဋ္ဌ၊၃။၈၃။ အဘိ၊ဋ္ဌ၊၁။၅၇။ ဇာ၊ဋ္ဌ၊၁။၃၇။ ဇာ၊ဋ္ဌ၊၄။၃၄၁။ ထေရီ၊ဋ္ဌ။ ၂။ သာရတ္ထ၊၃။၃၀၂။)

**အာကပ္ပသောဘာ** (ထီ) [အာကပ္ပ+သောဘာ] အသွင်အပြင်–အမူအရာ–၏ တင့်တယ်ခြင်း။ ဗုဒ္ဓါဝေဏိကသန္တကံ ဝိယ ဗုဒ္ဓါနံ အာကပ္ပသောဘာ အဟောသိ။ မ၊ဋ္ဌ၊၃။၆၂။

**အာကရ** (ပု) [အာ+ကရ+အ] ဖြစ်–တည်–ရာ ဌာန။ ပုညခေတ္တာနံ မာကရော။ ဝိမာန။၇၁။ သဒ္ဒေဝကဿ လောကဿ ပုညက္ခေတ္တဘူတာ-

နံ အရိယာနံ မဂ္ဂဖလဋ္ဌာနံ အရိယသံဃဿ အာကရာ ဥပ္ပတ္တိဋ္ဌာနံ တထာဂတာ။ ဝိမာန၊ဋ္ဌ။၁၉၉။ (–မိလိန္ဒ။၃၁၂။၃၃၇။ အဘိ၊ဋ္ဌ၊၁။၁၇၅။ ဣတိဝုတ်၊ဋ္ဌ။၃၂၉။ ထေရ၊ဋ္ဌ၊၂။၃၉။ အပ၊ဋ္ဌ၊၂။၁၄၂။ သာရတ္ထ၊၁။၂၄၇။)

**အာကရဋ္ဌ** (ပု) [အာကရ+အဋ္ဌ]ဖြစ်ရာတည်ရာ ဟူသော–အနက်–သဘော။ ဝိပါကဖဿာနံ အာကရဋ္ဌေန အာယတနာနိ။ အံ၊ဋ္ဌ၊၂။၁၅၉။ (–အဘိ၊ဋ္ဌ၊၁။၁၇၅။ ဣတိဝုတ်၊ဋ္ဌ။၃၂၉။)

**အာကရပါရိသုဒ္ဓိမူလက** (တိ) [အာကရ+ပါရိသုဒ္ဓိ+မူလ+က] ဖြစ်ရာ ပေါ်ထွက်ရာ အရပ် (ပတ္တမြားတွင်း)၏ သန့်ရှင်း စင်ကြယ်ခြင်း ဟူသော အရင်းခံအကြောင်းရှိသော။ ကုရုဝိန္ဒဇာတိအာဒိဇာတိဝိသေသောပိ မဏိ အာကရပါရိသုဒ္ဓိမူလကော ဝေ။ မ၊ဋီ၊၃။၁၂၅။

**အာကရမုတ္တ** (တိ) [အာကရ+မုတ္တ] ပေါ်ထွက်ရာအရပ် (ပတ္တမြားတွင်း)မှ – ကျွတ်လွတ်လာသော – တူးယူလာသော (ပတ္တမြား)။ ယထာဇာတော ပန အာကရမုတ္တော ပတ္တာဒိဘဏ္ဍမူလတ္တံ သမ္ပဋိစ္ဆိတုံ ဝဋ္ဋတိ။ ဝိ၊ဋ္ဌ၊၂။၁၃၀။ ဝိ၊သင်္ဂဟ။၂၉။ အာကရမုတ္တောတိ အာကရတော မုတ္တမတ္တော။ သာရတ္ထ၊၂။၃၂၀။

**အာကရိယတိ** (ကမ္မ၊ကြိ) [အာ+ကရ+ယ+တေ] ထင်စွာပြအပ်၏။ အာကရိယတိ ပကာသိယတိ ဧတေနာတိ အာကာရော။ သာရတ္ထ၊၃။၂၇၁။

**အာကရုပ္ပန္န** (တိ) [အာကရ+ဥပ္ပန္န] တည်ရာမှဖြစ်သော၊ တွင်းထွက်ဖြစ်သော (ရတနာ)။ ယထေဝ ဟိ မနုဿပရိဘောဂသုဝဏ္ဏဝိကတိတော ရသဝိဒ္ဓံ သေဋ္ဌံ သုဝိသုဒ္ဓံ၊ တတော အာကရုပ္ပန္နံ။ ဝိမာန၊ဋ္ဌ။၁၁။

**အာကလန** (န) [အာ+ကလ+ယု] ရေတွက်ခြင်း၊ ရေတွက်–ပိုင်းခြား–မှတ်သား–ခြင်း။ အဒုက္ခမသုခါယ ဝေဒနာယ ပဝတ္တနာကလနံ ပဝတ္တိယာ အာကလနံ အနာကလနဉ္စ ဇာနနံ အဇာနနဉ္စ သုခဒုက္ခဘာဝဝတ္ထာနံ။ ဣတိဝုတ်၊ဋ္ဌ။၁၇၂။

**အာကာရ[၁]** (ပု) [အာ+ကရ+ဏ] (၁) (က) အကြောင်း၊ အကျိုးတရားကို ဖြစ်ပေါ်လာစေသောအကြောင်း။ (ခ) အကြောင်းအင်္ဂါ၊ တခု နှစ်ခု စသော အစိတ်အပိုင်း အင်္ဂါဖြစ်သောအကြောင်း။ (ဂ) အကြောင်းဥပါယ်၊ ပရိယာယ်၊ နည်းလမ်း။ (၂) အခြင်းအရာ၊ သွားခြင်း·လာခြင်းစသော ကြိယာ၊ သွားပုံ၊ လာပုံ၊ ပြောဆိုပုံ၊ ပြုံးရယ်ပုံစသော ဟန်ပန်အမူအရာ။ (၃) အသွင်၊ ပုံသဏ္ဌာန်။ (၄) အဆင်းရောင်။ (၅) သဘော။ (က) ဝေဒနာ, သညာ·စသည်တို့၏ အချင်းချင်း မတူသော သဘော (ဝေဒနာ၏ အာရုံခံစားခြင်း သဘော, သညာ၏ အာရုံကို မှတ်သားခြင်း သဘောစသည်ဖြင့် တပါးနှင့်တပါး မတူသော သဘော)။ (ခ) ရုပ်နာမ်တရားတို့၏ မမြဲခြင်း စသော သဘော။ (၆) ပစ္စယသတ္တိ၊ ဟေတု, အာရမ္မဏ·စသော ပစ္စည်းတရားတို့၏ အစွမ်းသတ္တိ (အကျိုးပစ္စယုပ္ပန်တရားများ ဖြစ်ပေါ်လာအောင် တည်တံ့အောင် ကျေးဇူးပြုတတ်သော ပစ္စယသတ္တိ)။ (၇) အဖို့အစု။ (၈) အခြင်းအရာတရား၊ အတိတ်အကြောင်း, ပစ္စုပ္ပန်အကျိုး·စသော ၂၀·သော အခြင်းအရာတရား။ (၉) အပြား၊ တခုနှစ်ခု·စသည် ကွဲပြားသော– တရား– အရာဝတ္ထု။ (၁၀) မြင်လျှင်မြင်ချင်း သတ္တဝါဟု သိကြောင်းဖြစ်သော ရုပ်အဆင်းစသောအာရုံ (ပုဗ္ဗေနိဝါသာနုဿတိ ဉာဏ်ဖြင့် ပြန်၍အောက်မေ့အပ်သော ရုပ်အဆင်း, စားခဲ့ဘူးသော အစာအာဟာရ·စသော အာရုံ)။ (၁၁) အခြင်းအရာ၊ ဝတ်နှင့်ပြည့်စုံ မပြည့်စုံကို သိကြောင်းဖြစ်သော ကောင်းစွာ ခင်းထားအပ်သော ညောင်စောင်းအင်းပျဉ်စသောအခြင်းအရာ။ (၁၂) ပြဆိုခဲ့ပြီးသောစကားဝါကျကို ဝေဘန်ရှင်းလင်းခြင်း။

(၁)(က) အကြောင်း၊ အကျိုးတရားကို ဖြစ်ပေါ်လာစေသော အကြောင်း။ ဒွိဟိ အာကာရေဟိ ဗုဒ္ဓါ ဘဂဝန္တော ဘိက္ခူ ပဋိပုစ္ဆန္တိ။ ဝိ၊၁။၇၊၁၁၄။ ဝိ၊၃။၇၄။ အာကာရေဟိတိ ကာရဏေဟိ။ ဝိဋ္ဌ၊၁။၁၄၈။ သာရတ္ထ၊၃။၂၃၅-၆။ အာကာရောတိ အတ္တနော အနုရူပတာယ သမရိယာဒံ သပရိစ္ဆေဒံ ဖလံ နိဗ္ဗတ္တေတီတိ အာကာရော၊ ကာရဏန္တိ အာဟ "အာကာရေဟီတိ ကာရဏေဟီ"တိ။ သာရတ္ထ၊၁။၄၃၂။ ဒီဋီ၊၁။၃၂၈။ ဝိ၊၁။၃၃။ ဝေဝစနာနိ ဟိ သိက္ခာပစ္စက္ခာနဿ ကာရဏတ္တာ အာကာရာ။ (စာမူတို့၌ အာကာရာနိ- ဟု နိ-အက္ခရာနှင့် မရှိသင့်။) ဝိဋ္ဌ၊၁။၂၁၉။ (--ဝိ၊၁။၃၃။ ဝိ၊၄။၄၂၉။ ဝိ၊၅။၂၃၀၊၂၆၄၊ ၃၈၀။ ဒီ၊၁။၁၃၁။ မ၊၁။၃၉၃-၅။ မ၊၂။၂၂။ သံ၊၃။၃၈။ ဇာ၊၁။၅၂၊၂၅၅။ မိလိန္ဒ။၈၄။ ဝိဋ္ဌ၊၄။၁၇၂၊၂၄၄။ ဒီဋ္ဌ၊၁။၂၆၈။ ဒီဋ္ဌ၊၂။ ၁၈၇။ မဋ္ဌ၊၂။၂၈၄-၆။ မဋ္ဌ၊၃။၂၇။ မဟာနိဋ္ဌ။၃၄၈။ ဇာဋ္ဌ၊၂။၁၂၀။ ဇာဋ္ဌ၊၄။၁၉၉။ ဒီဋီ၊၂။၁၈၇။ မဋီ၊၂။၃၀၁-၂-၄။ မဋီ၊၃။၂၁၊ ၄၃၅။ ဝိသုဒ္ဓိဋီ၊၁။၄၄၄။) (ခ) အကြောင်းအင်္ဂါ၊ တခုနှစ်ခုစသော အစိတ်အပိုင်းအင်္ဂါဖြစ်သောအကြောင်း။ ပဉ္စဟိ အာကာရေဟိ အဒိန္နံ အာဒိယန္တဿ အာပတ္တိ ပါရာဇိကဿ။ ဝိ၊၁။၆၇။ ပဉ္စဟိ အာကာရေဟီတိ ပဉ္စဟိ ကာရဏေဟိ၊ ပဉ္စဟိ အင်္ဂေဟီတိ ဝုတ္တံ ဟောတိ။ ဝိဋ္ဌ၊၁။၃၂၅။ တီဟာကာရေဟိ ပဌမံ ဈာနံ သမာပဇ္ဇိန္တိ သမ္ပဇာနမုသာ ဘဏန္တဿ အာပတ္တိ ပါရာဇိကဿ။ ဝိ၊၁။၁၁၉။ တီဟာကာရေဟီတိ သမ္ပဇာနမုသာဝါဒဿ အင်္ဂဘူတေဟိ တီဟိ ကာရဏေဟိ။ ဝိဋ္ဌ၊၂။၈၈။ (—ဝိ၊၂။၂။) (ဂ) အကြောင်းဥပါယ်၊ပရိယာယ်၊ နည်းလမ်း။ အနေကပရိယာယေနာတိ ဥစ္စာဝစေဟိ အာကာရေဟိ။ ဝိ၊၁။၉၃။ မဟန္တာမဟန္တေဟိ ဥပါယေဟိ။ ဝိဋ္ဌ၊၂။၄၂။ (၂) အခြင်းအရာ၊ သွားခြင်း, လာခြင်း စသော ကြိယာ၊ သွားပုံ, လာပုံ, ပြောဆိုပုံ, ပြုံးရယ်ပုံ စသော ဟန်ပန်အမူအရာ။ (၃) အသွင်၊ ပုံသဏ္ဌာန်။ (၄) အဆင်းရောင်။ (၂) ဥဒယဗ္ဗယဒဿနကြိယာ ဟိ တံကြိယတော ဥဒယဗ္ဗယဉာဏဿ အာကာရောတိ စ ဝုစ္စတိ တံ အာကာရိယတိ ဉာယတိ ဧတေနာတိ ကတွာ။ မဏိသာရမဉ္ဇူသာဋီကာ၊၂။၅၅၁။ (—ဝိ၊၅။၂၉၀-၁။ မိလိန္ဒ။၂၂၈၄။ ဝိဋ္ဌ၊၃။ ၄၃၃။ ဒီဋ္ဌ၊၁။၂၇၊၃၁။ မဋ္ဌ၊၁။၂၂၀။ မဋ္ဌ၊၄။၃၃။ သံဋ္ဌ၊၁။၂၂၄။ အံဋ္ဌ၊၂။၁၈၊၁၆၇။ အဘိဋ္ဌ၊၁။၁၂၅၊ ၁၃၂၊ ၁၉၅၊ ၃၀၁၊ ၃၄၆-၇၊ ၄၀၇-၈-၉၊ ၄၂၂။ ဝိသုဒ္ဓိ၊၁။၁၂၁၊၁၄၅-၆။ ဓမ္မဋ္ဌ၊၂။၅၀။ ဥဒါနဋ္ဌ။၂၊၁၃၂၊၁၇၁။ ဣတိဝုတ်ဋ္ဌ။၂၅။ ပေတဋ္ဌ။၅၉၊၂၆၅။ ဝိမာနဋ္ဌ။၂၃။ ဗုဒ္ဓဝံဋ္ဌ။၂၄၅။ ဇာဋ္ဌ၊၃။၄၆၅။ ဇာဋ္ဌ၊၅။၂၃၅။ မဋီ၊၁။၃၁၅။ ဝိသုဒ္ဓိဋီ၊၁။၄၀၊ ၁၇၆၊၂၆၆၊၄၂၀။) (၂) (၃) ဂိဟိကာလေ သလ္လက္ခိတပုဗ္ဗံ အာကာရံ အဂ္ဂဟေသိ။ ဝိဋ္ဌ၊ ၁။၁၇၄။ "သာမိပုတ္တဿ မေ သုဒိန္နဿ ဝိယ .... ဣမာ ဟတ္ထပါဒပိဋ္ဌိယော .... မဓုရော သရော"တိ ဂိဟိကာလေ သလ္လက္ခိတပုဗ္ဗံ အာကာရံ အဂ္ဂဟေသိ။ သာရတ္ထ၊၂။၈။ အနုဗျဉ္ဇနန္တိ လဒ္ဓဝေါဟာရံ ဟတ္ထပါဒ သိတဟသိတ ကထိတ အာလောကိတ ဝိလောကိတာဒိဘေဒံ အာကာရံ ဂဏှာတိ။ အဘိဋ္ဌ၊၁။ ၄၂၈။ ဝိသုဒ္ဓိ၊၁။၂၀။ (၃)(၄) ပစ္စာသဉ္ဇာနနဿ ကာရဏဘူတံ အာကာရံ ဂဟေတွာ ဥပ္ပဇ္ဇတိ။ အဘိဓမ္မတ္ထဝိဘာဝိနီဋီကာ။ ၁၀၅။ အာကာရိယတိ ပစ္စာဘိညာယတိ ဧတေနာတိ အာကာရော၊ နီလပီတာဒိဝဏ္ဏဒီဃရဿာဒိသဏ္ဌာနံ။ မဏိသာရမဉ္ဇူသာဋီကာ၊၁။၃၁၆။ အာကာရသဏ္ဌာနဂဟဏလည်း ကြည့်။

(၅) သဘော။ (က) ဝေဒနာ, သညာ စသည်တို့၏ အချင်းချင်းမတူသော သဘော

